အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Puma Energy Asia Sun Co.,Ltd တည်ထောင်ကာ ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ တင်/ချ ဆိပ်ခံတံတား နှင့် သိုလှောင်ကန် တည်ဆောက်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည်/ကမကထပြုသူ | - - Puma Energy Asia Sun Co., Ltd<br>- Mr. Robert Michael Jones |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Puma Energy Irrawaddy Pte. Ltd. (Singapore) 80 %<br>-Asia Sun Energy Company Limited (Myanmar) 20 % |
| | လုပ်ငန်းအမျိုးအစား | - ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ တင်/ချ ဆိပ်ခံတံတား နှင့် သိုလှောင်ကန် တည်ဆောက်ခြင်းလုပ်ငန်း |
| ၂ | တည်နေရာ | - မြေကွက်အမှတ် - ၃၊ သီလဝါဆိပ်ကမ်း၊ သန်လျင်ကျောက်တန်းဒေသ၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေပိုင်ရှင် | မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၊ ပို့ဆောင်ရေးဝန်ကြီးဌာန |
| | မြေအကျယ်အဝန်း | ၃၇.၀၆ ဧက( ၁၄၉၉၈၂ စတုရန်းမီတာ ) |
| ၃ | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ်လျှင် US$ ၀.၃၆သန်း(တစ်စတုရန်းမီတာလျှင် US$ ၀.၁၆၇) |
| | မြေအသုံးချမှုပရီယံကြေး | - US$ ၁ သန်း |
| ၄ | လုပ်ငန်းသက်တမ်း | - ၅၀ နှစ် ( သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ) |
| | တည်ဆောက်ရေးကာလ | - ၁၈ လ |
| ၅ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၈၆.၄ သန်း |
| | ထည့်ဝင်သည့် အမျိုးအစား | |

| | နိုင်ငံခြား | မြန်မာ | US$ (သန်း)<br>စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၈.၆၀ | ၃.၄၀ | ၁၂.၀ |
| ချေးငွေ | ၆၉.၄၀ | - | ၆၉.၄၀ |
| အခြား | ၅.၀၀ | - | ၅.၀၀ |
| **စုစုပေါင်း** | ၈၃.၄၀ | ၃.၄၀ | ၈၆.၄၀ |

| | | |
|---|---|---|
| ၆ | ဝန်ထမ်းအင်အား | - **၄၂ ဦး** |
| | ပြည်တွင်း | ၄၁ ဦး: (ပြည်တွင်းလုပ်သားတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁၇၇၊ အမြင့်ဆုံး လစာမှာ US$ ၁,၅၄၆ ဖြစ်ပါသည်။) |
| | ပြည်ပ | ၁ဦး: (တစ်လလျှင် ပြည်ပ ကျွမ်းကျင်သူ တစ်ဦး၏ လစာမှာ US$ ၄,၁၆၇ ဖြစ်ပါသည်) |
| ၇ | ရောင်းချမည့်စနစ် | - ၁၀၀ % ပြည်တွင်း |

| | | |
|---|---|---|
| ၈ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ် )<br>ကုမ္ပဏီ၏အသုံးစရိတ်(ဆဋ္ဌမနှစ်)<br>ကုမ္ပဏီ၏အသားတင်အမြတ် (ဆဋ္ဌမနှစ် )<br>နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမနှစ်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန်<br>အရင်းကြေကာလ<br>အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - US$ ၁၅.၄၁၆သန်း<br>US$ ၁၄.၈၃၂ သန်း<br>US$ ၀.၅၈၄ သန်း<br>-<br>US$ ၀.၁၉၅ သန်း<br>US$ ၀.၇၇၁ သန်း<br>- ၉ နှစ် ၁၁ လ<br>- ၂၀ %<br>- ၁ US$ = ၉၅၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။ |
| ၁၀ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - Phase I : ၁၂,၆၁၄,၄၀၀ kWh<br>Phase II : ၂၀,၉၀၀,၀၀၀ kWh |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Puma Energy Asia Sun Company Limited |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | B.O.T စနစ်ဖြင့် ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ တင်/ချ ဆိပ်ခံတံတား နှင့် သိုလှောင်ကန် တည်ဆောက်ခြင်း လုပ်ငန်း |
| တည်နေရာ | - | မြေကွက်အမှတ်(၃)၊ သီလဝါဆိပ်ကမ်းဒေသ ၊ သန်လျင်ကျောက်တန်းဒေသ၊ ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | အမေရိကန်ဒေါ်လာ ၈၉.၈၀ သန်း |
| ရောင်းချမည့်စနစ် | - | ၁၀၀% ပြည်တွင်းရောင်း |
| လုပ်ငန်းသက်တမ်း | - | ၅၀ နှစ် (သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်) |
| အရင်းကြေကာလ | - | ၉ နှစ် ၁၁ လ |
| IRR | - | ၂၁ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဥ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၁.၆၈၀သန်း(တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆ သန်း |
| ၃ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၃၇၁၃.၅၅ သန်း |
| ၄ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၆၆၀.၂၁၁ သန်း | |
| ၅ | ဝင်ငွေခွန် | ကျပ် ၄၁၂၈.၇၀၀ သန်း | ကျပ် ၁၉၅၀၄.၄၅ သန်း |
| ၆ | ရေ သုံးစွဲခ | | - ကျပ် ၁၇.၉၆၅ သန်း |
| | လျှပ်စစ်မီးသုံးစွဲခ | | -ကျပ် ၄၄၅၄.၅၀ သန်း |
| | လောင်စာ သုံးစွဲခ | | -ကျပ် ၄၁၉၆သန်း |
| ၇ | မြေငှားခ | | ကျပ် ၂၃၉၄.၀၀ သန်း |
| ၈ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ် ဝင်ငွေ ကျပ်သိန်းနှစ်ဆယ်ထက်ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း (၄၂) ဦး |
| ၉ | CSR (၁ %) | | ကျပ် ၅၈၅.၀၈၆ သန်း |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၄၁ ဦး<br>ပြည်ပ ၁ ဦး<br>ပြည်တွင်းလုပ်သား ( ၄၁ ) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |

| | | | |
|---|---|---|---|
| | | ကျပ် ၄၇၉၀.၅၉၁သန်း | ကျပ် ၃၁၁၅၃.၁၆၁ သန်း |
| | | ၁း၆ | |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ရက- ၁/န-၉၈၃/၂၀၁၄( ၅၉၃၁ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဇွန်လ ၁၁ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Puma Energy Asia Sun Company Limited တည်ထောင်ကာ ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ တင်/ချ ဆိပ်ခံတံတား နှင့် သိုလှောင်ကန် တည်ဆောက်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ စင်ကာပူနိုင်ငံ၊ Puma Energy Irrawaddy Pte. Ltd. မှ ၈၀ % နှင့် မြန်မာနိုင်ငံ Asia Sun Energy Company Limited မှ ၂၀% ထည့်ဝင်ကာ ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဖြင့် Puma Energy Asia Sun Company Limited တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်ကျောက်တန်းဒေသရှိ သီလဝါဆိပ်ကမ်းဒေသ မြေကွက်အမှတ် - ၃အား B.O.T စနစ်ဖြင့် ငှားရမ်းပြီး ကတ္တရာ နှင့် ရေနံဆက်စပ်ပစ္စည်းများ တင်/ချ ဆိပ်ခံတံတား နှင့် သိုလှောင်ကန် တည်ဆောက်ခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် ပို့ဆောင်ရေးဝန်ကြီးဌာန မှတဆင့် အဆိုပြုလွှာ တင်ပြလာပါသည်။ ၎င်းအဆိုပြုချက်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁၃-၃-၂၀၁၄ ရက်နေ့တွင် ကျင်းပသော ၁၂/၂၀၁၄ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ပြုစုထားသည့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင် နှင့် Puma Energy Asia Sun Company Limited တို့အကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)၊ BOT စာချုပ် (မူကြမ်း) ၊ အဆောက်အဦ ဓါတ်ပုံ၊ လုပ်ငန်းတည်နေရာပြမြေပုံနှင့် Puma Energy Irrawaddy Pte. Ltd. နှင့် Asia Sun Energy Company Limited တို့အကြား ချုပ်ဆိုမည့် ဖက်စပ်စာချုပ် (မူကြမ်း) တို့အား ပူးတွဲ တင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ ၁၄၉၉၈၂ စတုရန်းမီတာ (၃၇.၀၆ ဧက) ဖြစ်ပါသည်။ မြေအသုံးချမှု ပရီမီယံကြေး အမေရိကန်ဒေါ်လာ ၁.၀၀ သန်း နှင့် နှစ်စဉ် မြေငှားရမ်းခမှာ တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ ၀.၃၆ သန်းဖြစ်ပြီး၊ မြေတစ်စတုရန်းမီတာကို တစ်နှစ်

လျှင် အမေရိကန်ဒေါ်လာ ၀.၁၆၇ နှုန်း ဖြစ်ပါသည်။ မြေငှားရမ်း ကာလမှာ ကနဦး (၅၀) နှစ် နှင့် သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ် ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး (၅၀) နှစ် နှင့် သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ် စုစုပေါင်း နှစ် (၇၀) ဆောင်ရွက်မည်ဖြစ်ပါသည်။ တည်ဆောက်မှုကာလမှာ (၁) နှစ် ၆လ ဖြစ်ပြီး ကော်မရှင် ခွင့်ပြုမိန့် ရရှိပြီးပါက လုပ်ငန်းများ စတင် ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါ သည်။

၅။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ ၈၆.၄သန်း ဖြစ်ပြီး ၎င်းတွင်နိုင်ငံခြား ကုမ္ပဏီမှ ချေးငွေ အမေရိကန်ဒေါ်လာ ၆၉.၄ သန်း ပါဝင်ပါသည်။ ချေးငွေကို မိခင်ကုမ္ပဏီ ဖြစ်သည့် Puma Energy Funding Ltd. မှ ချေးယူမည်ဖြစ်ပြီးအတိုး ၄.၅၀% နှုန်း ပေးဆောင်ရမည်ဖြစ်ကြောင်း၊ ချေးငွေအား (၈)နှစ် ခွဲ၍ ပြန်ဆပ်မည်ဖြစ်ကြောင်းနှင့် Loan Agreement (မူကြမ်း)ကို တင်ပြထားပါသည်။ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုတွင် မြန်မာကုမ္ပဏီ နှင့် နိုင်ငံခြားကုမ္ပဏီတို့၏ ထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

US$ (သန်း)

| | နိုင်ငံခြား(၈၀%) | | မြန်မာ(၂၀%) | စုစုပေါင်း |
|---|---|---|---|---|
| | Equity | Loan | | |
| ငွေသား | ၈.၆၀ | ၆၉.၄၀ | ၃.၄၀ | ၈၁.၄၀ |
| အခြား | ၅.၀၀ | | - | ၅.၀၀ |
| **စုစုပေါင်း** | **၁၃.၆၀** | **၆၉.၄၀** | **၃.၄၀** | **၈၆.၄၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၄၁)ဦးနှင့် ပြည်ပမှ ဝန်ထမ်း (၁)ဦး စုစုပေါင်း (၄၂)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းမှ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ အမေရိကန်ဒေါ်လာ ၁၇၇ ဖြစ်ပြီး၊ အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ် လာ ၁,၅၄၆ ဖြစ်ပါသည်။ ပြည်ပမှ ကျွမ်းကျင်သူတစ်ဦး၏ လစာမှာ အမေရိကန်ဒေါ်လာ ၄,၁၆၇ ဖြစ်ပြီး ဖြစ်ပါသည်။

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆)နှစ်မြောက်တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

**US $ (သန်း)**

| | | |
|---|---|---|
| (က) | ဝင်ငွေ | ၁၅.၄၁၆ |
| (ခ) | အသုံးစရိတ် | ၁၄.၈၃၂ |
| (ဂ) | အသားတင်အမြတ် | ၀.၅၈၄ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်(ဆဋ္ဌမနှစ်)တွင် ရရှိမည့် အကျိုး အမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၁၉၅ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန်

အမေရိကန်ဒေါ်လာ ၀.၇၇၁ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၉ နှစ် ၁၁ လ ဖြစ်ပြီး အရင်းအနှီး အပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၂၀% ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာ လျှင် ၉၅၀ ကျပ် နှုန်းဖြင့် တွက်ချက်တင်ပြထားပါသည်။

၉။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထား မှတ်ချက် ပြန်ကြားထားပါသည် -

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း၊ အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၄၁)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်ပါသဖြင့် သက်ဆိုင်ရာဒေသတွင် အလုပ်အကိုင် အခွင့်အလမ်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေ မည်ဖြစ်ပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်ရန်အတွက် မြန်မာ့ဆိပ်ကမ်း အာဏာပိုင်မှ ပိုင်ဆိုင်သည့် မြေကွက်အမှတ် (၃)၊ သီလဝါဆိပ်ကမ်း၊ သန်လျင်ကျောက်တန်း ဒေသအား မြေအသုံးချမှု ပရီမီယံကြေးအဖြစ် တစ်နှစ်၊ မြေတစ် စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၆.၆၆၇ ဖြင့် ၃၇.၀၆ ဧက (၁၄၉၉၈၂ စတုရန်းမီတာ) အတွက် အမေရိကန်ဒေါ်လာ ၁၀၀၀၀၀၀ ဖြင့်လည်းကောင်း၊ နှစ်စဉ် မြေငှားရမ်းခ အဖြစ် မြေတစ် စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၂ ဖြင့် (ရေ + မြေဧရိယာ) (၁၈၀၀၀၀ စတုရန်းမီတာ အတွက်)တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ ၃၆၀၀၀၀ ဖြင့်လည်းကောင်း၊ ၅၀နှစ်+၁၀နှစ်+ ၁၀ နှစ် စုစုပေါင်းနှစ် (၇၀) ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။ အဆိုပြုလုပ်ငန်း လုပ်ငန်းကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အားထိခိုက်မှုမရှိနိုင်ပါကြောင်းပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ(က)**

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန**မှ အဆိုပြု လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြား ထားပါသည် -

(၁) ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများသည် မီးလောင်လွယ်သဖြင့် မတော်တဆမီးလောင်ကျွမ်းမှု မဖြစ်စေရန်နှင့် ဖြစ်ပေါ်ပါက ပြင်းထန်သော ပေါက်ကွဲမှု ဖြစ်ပေါ်နိုင်ပါသဖြင့် ပတ်ဝန်းကျင်ထိခိုက်မှု မဖြစ်စေရန်

တည်ဆောက်အသုံးပြုမည့် အစီအမံများ၊ ကတ္တရာနှင့် ရေနံတင်ယာဉ်များ မတော်တဆ ယိုဖိတ်မှုကြောင့် မြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ထိခိုက်မှု မရှိစေရန်နှင့် သိုလှောင်ကန်များမှ ထွက်ပေါ်လာမည့် အခိုးအငွေ့များကြောင့် ပတ်ဝန်းကျင်လေထု ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်မည့် အစီအစဉ်များ ရေးဆွဲချမှတ်ရန်၊

(၂) စီမံကိန်း လုပ်ဆောင်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်း အကောင်အထည် မဖော်မီ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment – EIA )ကို ဆောင်ရွက်ရန်၊

(၃) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည့်တို့ ပါဝင်သည့်ပတ်ဝန်းကျင်စီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan – EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း ဆောင်ရွက်ရန်၊

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများ နှင့်အညီ လိုက်နာကျင့်သုံး အကောင်ထည်ဖော် ဆောင်ရွက်သွားရန် သဘောထားမှတ်ချက် ပြန်ကြား ထားပါသည်။ **(ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက် နှင့်အညီ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment – EIA )နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) တို့ကို Environment & Nature Conservation Associates (ENCA) မှ တာဝန်ယူ ရေးဆွဲထားသည့် အစီရင်ခံစာ တင်ပြထားပါသည်။)** **နောက်ဆက်တွဲ (ခ)**

(ဂ) **သတ္တုတွင်းဝန်ကြီးဌာန** မှ Puma Energy Group Pte Limited မှ ကတ္တရာ (၇၀၀၀) ကုဗမီတာ သိုလှောင်နိုင်သည့် သိုလှောင်ကန် (၃)လုံး၊ ရေနံဆက်စပ်

ပစ္စည်းများ (၈၃၇၅) ကုဗမီတာ သိုလှောင်နိုင်သည့် သိုလှောင်ကန် (၈)လုံး နှင့် အခြားလုပ်ငန်း အထောက်အကူပြု အဆောက်အဦများ တည်ဆောက်မည်ဖြစ်ရာ " The Petroleum Rules Article 5 of Schedule 1 ဖြစ်သည့် Form L " ပါ ပြဋ္ဌာန်းချက် များအရ ဂါလန် (၁)သိန်းနှင့်အထက် မြေပေါ်သိုလှောင်ကန်များသည် သိုလှောင်ကန် တစ်ကန်နှင့် တစ်ကန်အကြားတွင် ဘေးကင်းမှု အကွာအဝေး (၁၀၀) ပေ ခွာ၍ တည်ဆောက်ရန်၊ ပေ (၁၀၀) ထက် နီးကပ်စွာ တည်ဆောက်မည်ဆိုပါက သိုလှောင်ကန် နှစ်ကန်ကြားတွင် မီးတားနံရံ(Fire Screen Wall) အား ပို၍ အမြင့်ရှိသည့် သိုလှောင်ကန်၏ အမြင့်အတိုင်း ကာရံပေးရန်၊ သိုလှောင်ကန်၏ အမြင့်သည် အချင်းထက် မပိုရန်နှင့် အမြင့်သည် (၅၀) ပေထက် မပိုရန် လိုအပ် ကြောင်း သဘောထားပြန်ကြားလာပါသည်။ **ကုမ္ပဏီမှ သတ္တုတွင်းဝန်ကြီး ဌာန၏ သဘောထားမှတ်ချက် နှင့်အညီ ပြင်ဆင်မည်ဖြစ်ကြောင်း ကတိဝန်ခံစာ တင်ပြထား ပါသည်။**

**နောက်ဆက်တွဲ(ဂ)**

(ဃ) **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း** မှ MIC Projects Assessment Committee အနေဖြင့် ရန်ကုန်မြို့တွင် တည်ဆောက်မည့် ဆိပ်ခံတံတားနှင့် ဆက်စပ် အဆောက် အဦများ တည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေး ပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန် မရှိပါကြောင်း၊ အဆောက်အဦပိုင်းတွင် ပြည်ပမှ တင်သွင်းမည့် ဆောက်လုပ်ရေး ပစ္စည်းများနှင့် အရေအတွက်ကို အောက်ဖော်ပြပါ အတိုင်း ထောက်ခံတင်ပြထားပါသည်-

| စဉ် | ပစ္စည်းအမျိုးအမည် | MICစာအုပ်ပါ အရေအတွက် (Ton) | BQတွင်ပါဝင်သော အရေအတွက်(Ton) | ထောက်ခံတင်ပြသော အရေအတွက်(Ton) |
|---|---|---|---|---|
| ၁။ | သံချောင်းလုံးရှယ်စုံ | ၁၅၈၂ | ၁၀၈၉ | ၉၄၄ |
| ၂။ | သံနှင့် သံထည်ပစ္စည်း | ၃၂၄ | ၅၀၈ | ၂၈၇ |
| ၃။ | Driven Pile | ၃၇၃၀၀ (m) | ၃၇၃၀၀(m) | ၃၄၀၈၀(m) |

Puma Energy Asia Sun Company Limited မှ တင်ပြထားသော ပုံစံ၊ ဒီဇိုင်းများသည် အမှန်တကယ် အသေးစိတ်တည်ဆောက်မည့် ပုံစံ၊ ဒီဇိုင်းများ နှင့် ကွဲလွဲမှု ရှိမည်ဆိုပါက ယခု တွက်ချက်ထားသော ပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့် အရေအတွက် နှင့် ကွာခြားနိုင်ပါကြောင်း ပြန်ကြားထား ပါသည်။ **ကုမ္ပဏီမှ မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်း၏ သဘောထား မှတ်ချက်**

နှင့်အညီ ပြင်ဆင်သွားမည်ဖြစ်ကြောင်း ကတိဝန်ခံစာ တင်ပြထားပါသည်။
**နောက်ဆက်တွဲ(ဃ)**

(င) **ပြည်ထဲရေးဝန်ကြီးဌာန၊ မီးသတ်ဦးစီးဌာန** မှ အောက်ဖော်ပြပါ မီးဘေးလုံခြုံရေးစနစ်များဖြစ်သည့်

(၁) မီးလှန့်အချက်ပေးစနစ် (Fire Alarm System)

(၂) မီးထောက်လှမ်းမှုစနစ် (Fire Detection System)

(၃) မီးငြိမ်းသတ်ရေးစနစ် (Fire Fighting System)

(က) Fire Hydrants & Fire Monitors

(ခ) Foam System

(ဂ) အအေးပေးစနစ် (Cooling System)

(၄) မီးငြိမ်းသတ်ရေးစနစ် အားလုံးအတွက် တပ်ဆင်သွယ်တန်း အသုံးပြုသော ပိုက်များကို Grey Cast Iron (GI) သို့ Black Steel (BS) ပိုက်အသုံးပြုရန်ဖြစ်ပြီး ပိုက်ဆက်ကို Instantaneous Coupling (British Standard)များ တပ်ဆင်ဆောင်ရွက်ပေးခြင်း၊

(၅) ရေအဆက်မပြတ် ထောက်ပံ့ရေး စနစ် (Water Supply System) တို့ကို တပ်ဆင် ဆောင်ရွက်သွားမည် ဆိုပါက ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားလာပါသည်။**ကုမ္ပဏီမှ မီးသတ်ဦးစီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်သွားမည်ဖြစ်ကြောင်း ကတိဝန်ခံစာ ပြန်လည်တင်ပြထားပါသည်။** **နောက်ဆက်တွဲ(င)**

၁၀။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Puma Energy Irrawaddy Pte. Ltd. သည် စင်ကာပူနိုင်ငံ၊ NATIXIS BANK ၏ ၈-၁-၂၀၁၄ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ သန်း ၂၀ ရှိကြောင်း Bank Reference Letter အားတင်ပြထားပါသည်။ PUMA ENERGY (MYANMAR) PTE. LTD.၏ ကုမ္ပဏီ အထောက်အထားအဖြစ် စင်ကာပူနိုင်ငံ Accounting and Corporate Regulatory Authority (ACRA) တွင် ၁၇-၈-၂၀၁၂ ရက်စွဲဖြင့် ကုမ္ပဏီ မှတ်ပုံတင်အမှတ် - ၂၀၁၂၂၀၅၁၁ D ဖြင့် ကုမ္ပဏီမှတ်ပုံတင်ထားသည့် အထောက်အထားအား တင်ပြထားပါသည်။

၁၂။ Asia Sun Energy Company Limited သည် Asia Green Development Bank ( Kamayut Branch) တွင် (၂၃-၁-၂၀၁၄) ရက်စွဲဖြင့် မြန်မာကျပ်ငွေ ၃,၀၀၀,၀၀၀,၀၀၀ ရှိကြောင်းတင်ပြထားပါသည်။Asia Sun Energy Company Limited သည် ကုမ္ပဏီမှတ်ပုံတင်အမှတ် (ယာယီ) - ၁၇၉၄ / ၂၀၁၃-၂၀၁၄ ဖြင့် မှတ်ပုံတင်ထားပြီး (၁၂-၇-၂၀၁၃) ရက်နေ့မှ (၁၁-၁-၂၀၁၄) ရက်နေ့အထိ (၆)လ သက်တမ်းရှိသော ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (ယာယီ)အား တင်ပြထားပါသည်။ Puma Energy Asia Sun Company Limited ၏ ဒါရိုက်တာ အဖွဲ့ဝင် Passport မိတ္တူများကို တင်ပြထားပါသည်။

၁၃။ **စိစစ်တင်ပြချက်**

(က) ပြည်ပမှ တင်သွင်းမည့် ဆောက်လုပ်ရေး လုပ်ငန်းသုံး စက်အပါအဝင် ပစ္စည်းအမျိုးအမျိုးစုမှာ အခကြေးငွေဖြင့် ငှားရမ်း အသုံးပြုမည်ဖြစ်ပါ၍ Draw Back စနစ်ဖြင့်တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ခ) Puma Energy Asia Sun Company Limited မှ တင်ပြထားသည့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင် နှင့် Puma Energy Group Pte., Ltd. (Puma) တို့အကြားချုပ်ဆိုသည့် B.O.T စာချုပ်(မူကြမ်း) နှင့် မြေငှားစာချုပ် (မူကြမ်း) များမှာ ယခင် ကတ္တရာနှင့် ရေနံဆက်စပ် ပစ္စည်းများ တင်/ချ ဆိပ်ခံတားနှင့် သိုလှောင်ကန်များ တည်ဆောက်ပြီး တင်သွင်း ဖြန့်ဖြူးခြင်း လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ သဘောထားမှတ်ချက် တောင်းခံထားပြီး ၎င်းသဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားသည့် စာချုပ် (မူကြမ်း) များဖြစ်သည်ကိုတွေ့ရှိရပါသည်။

(ဂ) **စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း** မှ Puma Energy Asia Sun Company Limited ၏ ယခင်တင်ပြသည့် အဆိုပြုချက်အမည်ဖြစ်သည့် ကတ္တရာနှင့် ရေနံထွက် ကုန်ပစ္စည်းများ သိုလှောင်ခြင်း၊ ပြည်ပမှတင်သွင်းခြင်း၊ သယ်ယူပို့ဆောင်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခြင်းအတွက် နိုင်ငံတော်ပိုင် စီးပွားရေး လုပ်ငန်းများ ဥပဒေအရ လည်းကောင်း၊ စွမ်းအင်ဝန်ကြီးဌာန မှ ထုတ်ပြန်ခဲ့သော အမိန့်ကြော်ငြာစာ အမှတ် ၁/၈၈ အရလည်းကောင်း၊ ဖွဲ့စည်းပုံအခြေခံဥပဒေ ပုဒ်မ -၄၅ အရလည်းကောင်း Puma Energy Group Pte., Ltd. အနေဖြင့် စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်းနှင့်သာ အကျိုးတူဖက်စပ် လုပ်ကိုင်ဆောင်ရွက်ရမည်ဖြစ်ပါကြောင်း ပြန်ကြားထားသည်ကို တွေ့ရှိရပြီး၊ ယခုတင်ပြလာသည့် ကတ္တရာ

နှင့် ရေနံဆက်စပ်ပစ္စည်းများ တင်/ချ ဆိပ်ခံတံတား နှင့် သိုလှောင်ကန် တည်ဆောက်ခြင်းလုပ်ငန်း ဆောင်ရွက်ခြင်း အတွက်မူ မှတ်ချက်ပြုထားခြင်း မရှိသေးပါ။

(ဃ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာ ၁/၂၀၁၃ ပါ လုပ်ငန်းအမျိုးအစား ပြင်ဆင်သတ်မှတ်ခြင်းကို ပြင်ဆင်သည့် အပြီးသတ် မူကြမ်း၌ ရေနံသဘာဝဓာတ်ငွေ့နှင့် ရေနံထွက်ပစ္စည်းများ တင်သွင်း/တင်ပို့၊ သယ်ယူ၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းများနှင့် ယင်းလုပ်ငန်းများ ဆောင်ရွက်နိုင်ရန်အတွက် လိုအပ်သည့် သိုလှောင်ကန်များ၊ ဆီတင်ဆီချ ဆိပ်ခံတံတားများ၊ ပိုက်လိုင်းများ၊ ဆက်စပ်ကိရိယာပစ္စည်းများ နှင့် အဆောက် အဦများကို တည်ဆောက် တပ်ဆင်၍ လုပ်ငန်းများ အကောင်အထည်ဖော် ဆောင်ရွက်ခြင်း လုပ်ငန်းများအား စွမ်းအင်ဝန်ကြီးဌာနနှင့်သာ ဖက်စပ်စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုထားသည် ကိုတွေ့ရှိရပါသည်။

(င) Puma Energy Asia Sun Company Limited ၏ လုပ်ငန်း ဆောင်ရွက်ခြင်း နှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန ၊ စွမ်းအင်ဝန်ကြီးဌာန ၊ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတို့သို့ ကတ္တရာနှင့် ရေနံဆက်စပ် ပစ္စည်းများ တင်/ချ ဆိပ်ခံတံတားနှင့် အထောက် အကူပြု အဆောက်အအုံများ တည်ဆောက်၍ B.O.T စနစ်ဖြင့် ကတ္တရာနှင့် ရေနံထွက် ကုန်ပစ္စည်းများအား သိုလှောင်ခြင်း၊ ပြည်ပမှ တင်သွင်းခြင်း၊ သယ်ယူ ပို့ဆောင် ခြင်းနှင့် ဖြန့်ဖြူးခြင်း လုပ်ငန်းအမျိုးအစား အမည်ဖြင့်သာ သဘောထား မှတ်ချက် တောင်းခံထားပြီးဖြစ်ပါသည်။ Puma Energy Asia Sun Company Limited ၏ လုပ်ငန်း အမျိုးအစားမှာ ကတ္တရာ နှင့် ရေနံဆက်စပ်ပစ္စည်းများ တင်/ချ ဆိပ်ခံ တံတားနှင့် သိုလှောင်ကန် တည်ဆောက်ခြင်းလုပ်ငန်းဖြစ်သည်ကို Form-1 တွင် ဖြည့်စွက်၍ ၁၁-၆-၂၀၁၄ ရက်နေ့၌ ပြန်လည် တင်ပြလာကြောင်း တင်ပြအပ်ပါ သည်။

**ဆုံးဖြတ်ရန်အချက်**

၁၄။ Puma Energy Asia Sun Company Limited တည်ထောင်ကာ ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ် - ၃၊ သီလဝါဆိပ်ကမ်း၊ သန်လျင်ကျောက်တန်းဒေသ၊ ရန်ကုန်

တိုင်းဒေသကြီးတွင် ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ တင်/ချ ဆိပ်ခံတံတား နှင့် သိုလှောင်ကန် တည်ဆောက်ခြင်း လုပ်ငန်းနှင့် စပ်လျဉ်း၍-

(က) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူ
ရုံးလက်ခံ

# ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| ၁။ | Puma Energy Irrawaddy Pte. Ltd. | (၁) Mr. Robert Michael Jones<br>Director<br>British<br>P. P No. 500731043 | 25 Oriole Cres,<br>Singapore 288618. |
| | | (၂) Ms. Toni Sharon Weber<br>Director<br>British<br>P. P No. 761309009 | #40-28 Citylights,<br>90 Jellicoe Road,<br>Singapore 208794 |
| ၂ | Asia Sun Energy Company Limited | (၃) U Win Kyaw Kyaw Aung<br>Director<br>Myanmar<br>13/Ma Sa Ta(N)031876 | Building No.A, Room 1002,<br>New University Avenue Road,<br>Shwe Than Lwin Condo,<br>Sayar San Quarter,<br>Bahan Township, Yangon |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉ ၄၃၀၄၆၇၄၁

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ရာထူး - ဦးအောင်မျိုးဇော်

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - B.O.T စနစ်ဖြင့် ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ တင်/ချ ဆိပ်ခံတံတား နှင့် သိုလှောင်ကန် တည်ဆောက်ခြင်း လုပ်ငန်း၊

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ -

၆။ ကုမ္ပဏီမှတ်ပုံတင် သက်တမ်းကုန်ဆုံးသည့်နေ့စွဲ -

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် -

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂ / ၃ - ၆ (၅) / စီးပွား
ရက် စွဲ ၊၂၀၁၄ ခုနှစ်၊ မေ လ ၂၂ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂. ၃. ၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက-၆ (က)/န-၉၈၃/၂၀၁၄ (၂၇၅၁)

၁။ စင်ကာပူနိုင်ငံ၊ Puma Energy Irrawaddy Pte. Ltd. မှ (၈၀%) နှင့် မြန်မာနိုင်ငံ Asia Sun Energy Company Limited မှ (၂၀%) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Puma Energy Asia Sun Company Limited တည်ထောင်ကာ မြေကွက်အမှတ်-၃၊ သီလဝါဆိပ်ကမ်း၊ သန်လျင်ကျောက်တန်းဒေသ၊ ရန်ကုန်တိုင်းဒေသကြီးတွင် ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ တင်/ချ ဆိပ်ခံတံတားနှင့် အထောက်အကူပြု အဆောက်အအုံများ တည်ဆောက်၍ B.O.T စနစ်ဖြင့် ကတ္တရာနှင့်ရေနံထွက်ကုန်ပစ္စည်းများအား သိုလှောင်ခြင်း၊ ပြည်ပမှ တင်သွင်းခြင်း၊ သယ်ယူပို့ဆောင်ခြင်းနှင့် ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှု အပေါ် အောက်ပါအချက်များအား သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြား လာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း တွေ့ရှိရပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းကို လုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၄၁)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သဖြင့် သက်ဆိုင်ရာဒေသတွင် အလုပ်အကိုင်အခွင့်အလမ်းနှင့် စီးပွားရေးဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်စေမည် ဖြစ်ပါသည်၊

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန်အတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ပိုင်ဆိုင်သည့် မြေကွက် အမှတ် (၃)၊ သီလဝါဆိပ်ကမ်း၊ သန်လျင် ကျောက်တန်းဒေသအား မြေအသုံးချမှုပရီမီယံကြေး အဖြစ် တစ်နှစ်၊ မြေတစ်စတုရန်းမီတာလျှင် USD ၆. ၆၆၇ ဖြင့် ၃၇. ၀၆ ဧက (၁၄၉၉၈၂ စတုရန်းမီတာ) အတွက် USD ၁၀၀၀၀၀၀ ဖြင့်လည်းကောင်း၊ နှစ်စဉ်မြေငှားရမ်းခအဖြစ် မြေတစ်စတုရန်းမီတာလျှင် USD ၂ ဖြင့် (ရေ+မြေဧရိယာ) (၁၈၀၀၀၀ စတုရန်းမီတာအတွက်) တစ်နှစ်လျှင် USD ၃၆၀၀၀၀ ဖြင့်လည်းကောင်း၊ ၅၀နှစ်+၁၀နှစ်+၁၀နှစ် စုစုပေါင်း နှစ်(၇၀) ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်၊

(ဃ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိနိုင်ပါ။

D/2014/Cabinet/18-(1)

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၁၅. ၅. ၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၈/၂၀၁၄)၊ ဆုံးဖြတ်ချက်အပိုဒ် (၂၁)အရ Puma Energy Asia Sun Company Limited ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြ အပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးစိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီး
ရန်ကုန်တောင်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
သန်လျင်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Puma Energy Asia Sun Company Limited
လက်ခံစာတွဲ/မျှောစာတွဲ

1-4056
27/3/2014

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
## ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၂/၂၂၀(ခ)(၆)/(၂၀၅၁ /၂၀၁၄)
ရက်စွဲ ၂၀၁၄ ခုနှစ်၊ မတ်လ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်တင်ပြခြင်းကိစ္စ

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂-၃-၂၀၁၄ ရက်စွဲပါစာအမှတ်-ရကာ - ၆ (ခ) / န - ၉၈၃ / ၂၀၁၄ (၂၇၅၂)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ စင်္ကာပူနိုင်ငံ Puma Energy Irrawaddy Pte., Ltd. မှ(၈၀%) နှင့် မြန်မာနိုင်ငံ Asia Sun Energy Co., Ltd မှ(၂၀%) ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Puma Energy Asia Sun Company Ltd. တည်ထောင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်ကျောက်တန်းမြို့နယ်၊ သီလဝါဆိပ်ကမ်း၊ မြေကွက်အမှတ် (၃) တွင် ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ တင်/ချ တံတားနှင့် အထောက်အကူပြုအဆောက်အအုံများ တည်ဆောက်၍ B.O.T စနစ်ဖြင့် ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများအား သိုလှောင်ခြင်း၊ ပြည်ပမှတင်သွင်းခြင်း၊ သယ်ယူပို့ဆောင်ခြင်းနှင့် ဖြန့်ဖြူးခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာသဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အစီရင်ခံစာတွင် ပို့ဆောင်ရေးဝန်ကြီးဌာနမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်တင်ပြခြင်း၊ တည်ဆောက်မည့်ဧရိယာမှာ (၃၇.၀၆) ဧကရှိပြီး မျက်နှာစာ အလျား(၂၀၀)မီတာ × အကျယ်(၃၅)မီတာ အရွယ်ရှိ ဆိပ်ခံတံတားတစ်စင်း နှင့် အလျား(၁၂၀)မီတာ × အကျယ်(၅)မီတာအရွယ် ချဉ်းကပ်တံတားတစ်စင်းပါဝင်သောကွန်ကရစ်ဆိပ်ခံတံတားကို တည်ဆောက်မည်ဖြစ်ပြီး ကတ္တရာ(၇၀၀၀)ကုဗမီတာဆန့် သိုလှောင်ကန် (၃)လုံး၊ ရေနံဆက်စပ်ပစ္စည်းများ၊ (၈၃၇၅)ကုဗမီတာဆန့် သိုလှောင်ကန်(၈)လုံးနှင့် အခြားလုပ်ငန်းအထောက်အကူပြု အဆောက်အဦများတည်ဆောက်၍ လုပ်ငန်းအား နှစ်(၇၀) ဆောင်ရွက်မည်ဖြစ်ကြောင်း၊ အဆောက်အဦများတည်ဆောက်နေစဉ်ကာလတွင် ပတ်ဝန်းကျင်ထိခိုက်မှု

ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)၊ လူမှုရေးထိခိုက်မှုဆန်းစစ်ခြင်း (Social Impact Assessment -SIA) တို့အား Environment & Nature Conservation Associate - ENCA အဖွဲ့ဖြင့် ဆောင်ရွက်လျက်ရှိကြောင်း ဖော်ပြပါရှိပါသည်။

၃။ ဆိပ်ခံတံတား၊ ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်း သိုလှောင်ကန်များ တည်ဆောက်ခြင်း၊ တင်/ချခြင်း၊ သယ်ယူခြင်း၊ သိုလှောင်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းများဆောင်ရွက်မည်ဆိုပါက လုပ်ငန်းသုံးယာဉ်ယန္တရားများနှင့် ဖုန်အမှုန်များ၊ စွန့်ပစ်ရေနှင့်ပစ္စည်းများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု၊ အသံဆူညံမှုများ ဖြစ်ပေါ်နိုင်ခြင်း၊ ကတ္တရာ၊ ရေနံနှင့်ဆက်စပ်ပစ္စည်းများ မတော်တဆ ယိုဖိတ်နိုင်မှုများကြောင့် ရေနေသတ္တဝါများနှင့် ရေဂေဟစနစ်အပေါ်ထိခိုက်စေနိုင်မှု၊ လုပ်သားများအား မတော်တဆထိခိုက်စေနိုင်မှု၊ မီးဘေးအန္တရာယ်ဖြစ်ပေါ်စေနိုင်မှုစသည့် ပတ်ဝန်းကျင်နှင့် လူမှုကျန်းမာရေးဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ စင်္ကာပူနိုင်ငံ Puma Energy Irrawaddy Pte., Ltd. မှ(၈၀%) နှင့် မြန်မာနိုင်ငံ Asia Sun Energy Co., Ltd မှ(၂၀%) ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Puma Energy Asia Sun Company Ltd. တည်ထောင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်ကျောက်တန်းမြို့နယ်၊ သီလဝါဆိပ်ကမ်း၊ မြေကွက်အမှတ် (၃)တွင် ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ တင်/ချ တံတားနှင့် အထောက်အကူပြု အဆောက်အအုံများတည်ဆောက်၍ B.O.T စနစ်ဖြင့် ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများအား သိုလှောင်ခြင်း၊ ပြည်ပမှတင်သွင်းခြင်း၊ သယ်ယူပို့ဆောင်ခြင်းနှင့် ဖြန့်ဖြူးခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ ဌာနဆိုင်ရာသဘောထားမှတ်ချက်အား အောက်ပါအတိုင်း ဆောင်ရွက်ရန်လိုအပ်ပါကြောင်း ပြန်ကြားအပ်ပါသည်-

(က) ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများသည် မီးလောင်လွယ်သဖြင့် မတော်တဆ မီးလောင်ကျွမ်းမှုမဖြစ်ပေါ်စေရန်နှင့် ဖြစ်ပေါ်ပါက ပြင်းထန်သောပေါက်ကွဲမှု ဖြစ်ပေါ်နိုင်သဖြင့် ပတ်ဝန်းကျင်ထိခိုက်မှုမဖြစ်စေရန် တည်ဆောက်အသုံးပြုမည့် အစီအမံများ၊ ကတ္တရာနှင့်ရေနံတင်ယာဉ်များ မတော်တဆယိုဖိတ်မှုကြောင့် မြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရန်နှင့် သိုလှောင်ကန်များမှ ထွက်ပေါ်လာမည့် အခိုးအငွေ့များကြောင့် ပတ်ဝန်းကျင် လေထု ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်မည့် အစီအစဉ်များ ရေးဆွဲချမှတ်ရန်၊

(ခ) စီမံကိန်းလုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်း အကောင် အထည်မဖော်မီ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ကို ဆောင်ရွက်ရန်၊

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု စီမံချက် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း ဆောင်ရွက် ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(signature) ၇/၂

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုး ညွန့် ၊ ရုံး အ ဖွဲ့ မှူး )

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သတ္တုတွင်းဝန်ကြီးဌာန
**ဝန် ကြီး ရုံး**
နေပြည်တော်

စာအမှတ်၊ ၅၇ - ခွဲ(၃) ၁၄ ( ၅၃၆၉ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ မေ လ ၂၈ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃.၅.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/ န-၉၈၃/၂၀၁၄(၅၂၉၃)

၁။ ရည်ညွှန်းစာပါ အကြောင်းအရာ ကိစ္စနှင့်ပတ်သက်၍ Puma Energy Group Pte Limited မှ ကတ္တရာ (၇၀၀၀)ကုဗမီတာ သိုလှောင်နိုင်သည့် သိုလှောင်ကန်(၃)လုံး၊ ရေနံဆက်စပ်ပစ္စည်းများ (၈၃၇၅)ကုဗ မီတာ သိုလှောင်နိုင်သည့် သိုလှောင်ကန်(၈)လုံးနှင့် အခြားလုပ်ငန်း အထောက်အကူပြု အဆောက်အဦများ တည်ဆောက်မည်ဖြစ်ရာ "The Petroleum Roles ၏ Article 5 of Schedule 1 ဖြစ်သည့် Form L" ပါ ပြဋ္ဌာန်းချက်များအရ ဂါလန်(၁)သိန်းနှင့်အထက် မြေပေါ် သိုလှောင်ကန်များသည် သိုလှောင်ကန် တစ်ကန်နှင့် တစ်ကန် အကြားတွင် ဘေးကင်းမှု အကွာအဝေး (၁၀၀)ပေ ခွာ၍ တည်ဆောက်ရန်၊ ပေ(၁၀၀)ထက် နီးကပ်စွာ တည်ဆောက် မည်ဆိုပါက သိုလှောင်ကန် နှစ်ကန်ကြားတွင် မီးတားနံရံ (Fire Screen Wall) အား ပို၍အမြင့် ရှိသည့် သိုလှောင်ကန်၏ အမြင့်အတိုင်း ကာရံပေးရန်၊ သိုလှောင်ကန်၏ အမြင့်သည် အချင်းထက် မပိုရန်နှင့် အမြင့်သည် (၅၀)ပေထက် မပိုရန် လိုအပ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၂။ သို့ဖြစ်ပါ၍ Puma Energy Group Pte Limited ၏ ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်း မြေပေါ် သိုလှောင်ကန်များ တည်ဆောက်ရာတွင် အပိုဒ်(၁)ပါ "The Petroleum Roles ၏ Article 5 of Schedule 1 ဖြစ်သည့် Form L" ပါ ပြဋ္ဌာန်းချက်များအတိုင်း တည်ဆောက်မည်ဆိုပါက သတ္တုတွင်းဝန်ကြီးဌာန အနေဖြင့် ကန့်ကွက်ရန် မရှိကြောင်း ပြန်ကြားအပ်ပါသည်။

28/5/14

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
သတ္တုတွင်းဝန်ကြီးဌာန
( မင်းမင်းဦး၊ ရုံးအဖွဲ့မှူး )

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
သတ္တုတွင်းဦးစီးဌာန

MYANMAR ENGINEERING SOCIETY

# မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
# MYANMAR ENGINEERING SOCIETY

Hlaing Universities' Campus, Hlaing Township, Yangon, Myanmar
Tel : 95-1-519673 ~ 76, Fax : 95-1-519681
E-mail:mes@mptmail.net.mm, Website: www.mes.org.mm

M.4605
၂.၆.၂၀၁၄

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

စာအမှတ် ၊ မအသ / MIC / ၀၉၂၀ / ၂၀၁၄။
ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ မေလ၊ ( ၂၀ ) ရက်။

**အကြောင်းအရာ။** **။ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်ကျောက်တန်းဒေသ၊ သီလဝါဆိပ်ကမ်း၊ မြေကွက်အမှတ်-၃ တွင် တည်ဆောက်မည့်ကတ္တရာနှင့်ရေနံဆက်စပ်ပစ္စည်းများ တင်/ချဆိပ်ခံတံတားနှင့် အထောက်အကူပြုအဆောက်အအုံများ တည်ဆောက်ခြင်းလုပ်ငန်းကိစ္စ။**

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၄ခုနှစ်၊ မတ်လ(၁၂)ရက် နေ့စွဲပါ စာအမှတ်၊ ရက-၆(က)/န-၉၈၃/၂၀၁၄ (၂၇၅၃)

၁။ အထက်ဖော်ပြပါအကြောင်းအရာကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ သက်ဆိုင်ရာ Puma Energy Asia Sun Co.,Ltd မှ ၂၀၁၄ခုနှစ်၊ မတ်လ(၁၂)ရက်စွဲဖြင့် ရန်ကုန်တိုင်းဒေသကြီး၊သန်လျင်ကျောက်တန်းဒေသ၊သီလဝါဆိပ်ကမ်း၊ မြေကွက်အမှတ်-၃ တွင် တည်ဆောက်မည့်ကတ္တရာနှင့်ရေနံဆက်စပ်ပစ္စည်းများ တင်/ချ ဆိပ်ခံတံတားနှင့် အထောက်အကူပြုအဆောက်အအုံများ တည်ဆောက်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆောက်အဦနှင့် ပတ်သက်သော ပုံစံများနှင့် အသေးစိတ်ဇယားများကို လိုအပ်သော လမ်းညွှန်ချက်များပေးပါရန် တင်ပြခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင်ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ ယင်းကိစ္စနှင့် ပတ်သက်၍ (၁၈-၃-၂၀၁၄)ရက်နေ့မှ (၁၇-၅-၂၀၁၄) ရက်နေ့အထိ Foundation အပိုင်း၊ Structure အပိုင်း၊ အဆောက်အဦအတွက်အသုံးပြုမည့် ဆောက်လုပ်ရေးပစ္စည်းများကို စိစစ်သုံးသပ်ခဲ့ပါသည်။

၃။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee အနေဖြင့် ရန်ကုန်မြို့တွင် တည်ဆောက်မည့် ဆိပ်ခံတံတားနှင့် ဆက်စပ်အဆောက်အဦများ တည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့်စံချိန်စံညွှန်းမီ တည်ဆောက်ရေး ပစ္စည်းများအသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

၄။ အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် အောက်ဖော်ပြပါ ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ထောက်ခံတင်ပြအပ်ပါသည်။

| စဉ် | ပစ္စည်းအမျိုးအမည် | MIC စာအုပ်ပါ အရေအတွက် (Ton) | BQ တွင်ပါဝင်သော အရေအတွက် (Ton) | ထောက်ခံတင်ပြသော အရေအတွက်(Ton) |
|---|---|---|---|---|
| ၁။ | သံချောင်းလုံးရှယ်စုံ | ၁၅၈၂ | ၁၀၈၉ | ၉၄၄ |
| ၂။ | သံနှင့်သံထည်ပစ္စည်း | ၃၂၄ | ၅၀၈ | ၂၈၇ |
| ၃။ | Driven Pile | ၃၇၃၀၀ (m) | ၃၇၃၀၀ (m) | ၃၄၀၈၀ (m) |

Ton = တန် , m = မီတာ

မှတ်ချက်။ ။(၁) ယခုတင်ပြသောစီမံကိန်းစိစစ်ရာတွင် တင်ပြသောပုံစံ၊ဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ်တည်ဆောက်မည့် ပုံစံ၊ဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသောပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့်အရေအတွက်နှင့် ကွာခြားနိုင်ပါသည်။ သို့အတွက် လိုအပ်ပါက ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါသည်။
(Subject to Check)

(၂) အဆောက်အဦပိုင်းတွင် အသုံးပြုမည့် ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းဖြစ်သော ဘိလပ်မြေကို ပြည်တွင်းမှသာ ဝယ်ယူအသုံးပြုမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(၃) သက်ဆိုင်ရာမီးသတ်ဦးစီးဌာနမှချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်းလိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(ဝင်းခိုင်)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

မိတ္တူကို – Managing Director, Puma Energy Asia Sun Co.,Ltd
– ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
– အတွင်းရေးမှူး၊ MIC Projects Assessment Committee
– ရုံးလက်ခံ / မျှောစာတွဲ

MIC Projects Assessment Committee
Myanmar Engineering Society

17-4655
4/6/2014

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်ထဲရေးဝန်ကြီးဌာန
မီးသတ်ဦးစီးဌာန

စာအမှတ်၊၂၈၇၂ / ၁၀၀ / ၅၂ / ဦး ၁
ရက် စွဲ၊၂၀၁၄ ခုနှစ်၊ ဇွန်လ ၄ ရက်

အကြောင်းအရာ။ **မီးသတ်ဦးစီးဌာန၏ သဘောထား ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၃.၅.၂၀၁၄) ရက်စွဲပါစာအမှတ် ၇က-၆ (က) / န-၉၈၃ / ၂၀၁၄ ( ၅၂၉၄ )

ရန်ကုန်တိုင်းဒေသကြီး၊ကျောက်တန်းမြို့နယ်၊ သီလဝါဆိပ်ကမ်းဒေသ မြေကွက်အမှတ် (၃)တွင် Puma Energy Group Pte Ltd မှတာဝန်ယူ ဆောက်လုပ်မည့် ကတ္တရာ၊ ရေနံနှင့်ဆက်စပ်ပစ္စည်းများ တင်ပို့ရာတွင် အသုံးပြုမည့် ဆိပ်ခံတံတားနှင့် သိုလှောင်ကန် တည်ဆောက်ရေး စီမံကိန်းတွင် တပ်ဆင် ဆောင်ရွက်မည့် မီးဘေးလုံခြုံရေး စနစ်များနှင့် စပ်လျဉ်း၍ မီးသတ်ဦးစီးဌာနသို့ (၂.၄.၂၀၁၄) ရက်နေ့တွင် တာဝန်ရှိသူများမှ ရှင်းလင်းတင်ပြခဲ့ပြီး ဖြစ်ပါ၍ ယင်းရှင်းလင်းတင်ပြသည့်အတိုင်း အောက်ဖော်ပြပါ မီးဘေးလုံခြုံရေး စနစ်များကိုတပ်ဆင် ဆောင်ရွက်သွားမည်ဆိုပါက ကန့်ကွက်ရန် မရှိကြောင်း အကြောင်းကြားပါသည်-

(က) မီးလှန့်အချက်ပေးစနစ် (Fire Alarm System)

(ခ) မီးထောက်လှမ်းမှုစနစ် (Fire Detection System)

(ဂ) မီးငြိမ်းသတ်ရေးစနစ် (Fire Fighting System)

(၁) Fire Hydrants & Fire Monitors

(၂) Foam System

(၃) အအေးပေးစနစ် (Cooling System)

(ဃ) မီးငြိမ်းသတ်ရေးစနစ်အားလုံးအတွက် တပ်ဆင်သွယ်တန်းအသုံးပြုသော ပိုက်များကို Grey Cast Iron ( GI ) (သို့) Black Steel ( BS ) ပိုက်အသုံးပြုရန် ဖြစ်ပြီး ပိုက်ဆက်ကို Instantaneous Coupling ( British Standard ) များတပ်ဆင် ဆောင်ရွက်ပေးခြင်း။

(င) ရေအဆက်မပြတ်ထောက်ပံ့ရေးစနစ် (Water Supply System)

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
( ကျော်သူရ၊ညွှန်ကြားရေးမှူး )

Puma Energy Asia Sun Company Limited

မိတ္တူကို

မျှောစာတွဲ/လက်ခံစာတွဲ

ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မြေ ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၌ ကော်မရှင်မှ ခွင့်ပြုခဲ့သည့် စက်သုံးဆီ သိုလှောင်သည့် ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်မည့် ကုမ္ပဏီများ၏ သိုလှောင်မည့် ဆီကန်များနှင့် သီလဝါဆိပ်ကမ်းဒေသများရှိ ကုမ္ပဏီများစာရင်း

(က) ကော်မရှင်မှ ခွင့်ပြုခဲ့သည့် စက်သုံးဆီ သိုလှောင်သည့် ဝန်ဆောင်မှု လုပ်ငန်းများ(၁)ခု

| စဉ် | ကုမ္ပဏီအမည် နှင့် တည်နေရာ | ဆောက်လုပ်မည့် သိုလှောင်ကန် | ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်း တန်ဘိုး (US$/ သန်း) | ပြည်ပမှ တင်သွင်းပြီး စက်ပစ္စည်း တန်ဘိုး (US$/ သန်း) | ကွင်းဆင်းစစ်ဆေးတွေ့ရှိချက်နှင့် လုပ်ငန်းဆောင်ရွက်မှု အခြေအနေ | ခွင့်ပြုမိန့်အမှတ်နှင့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|---|---|---|
| ၁။ | Puma Energy Asia Sun Co., Ltd. မြေကွက်အမှတ် - ၃၊ သီလဝါ ဆိပ်ကမ်း၊ သန်လျင်ကျောက်တန်းဒေသ၊ ရန်ကုန်တိုင်းဒေသကြီး ရှိ မြေ (၃၇.၀၆)ဧက | (၃)လုံး<br>(၈)လုံး | ၄၇.၃၈ | | - | ၇၄၈/ ၂၀၁၄<br>(၂၄-၇-၂၀၁၄) | - ပြည်ပမှ စက်ပစ္စည်း တင်သွင်းခြင်း မရှိသေးပါ။ |

ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မြေ ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၌ ကော်မရှင်မှ ခွင့်ပြုခဲ့သည့် စက်သုံးဆီ သိုလှောင်သည့် ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်မည့် ကုမ္ပဏီများ၏ သိုလှောင်မည့် ဆီကန်များနှင့် သီလဝါဆိပ်ကမ်းဒေသများရှိ ကုမ္ပဏီများစာရင်း

(က) ကော်မရှင်မှ ခွင့်ပြုခဲ့သည့် စက်သုံးဆီ သိုလှောင်သည့် ဝန်ဆောင်မှု လုပ်ငန်းများ(၁)ခု

| စဉ် | ကုမ္ပဏီအမည် နှင့် တည်နေရာ | ဆောက်လုပ်မည့် သိုလှောင်ကန် | ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်း တန်ဘိုး (US$/ သန်း) | ပြည်ပမှ တင်သွင်းပြီး စက်ပစ္စည်း တန်ဘိုး (US$/ သန်း) | ကွင်းဆင်းစစ်ဆေးတွေ့ရှိချက်နှင့် လုပ်ငန်းဆောင်ရွက်မှု အခြေအနေ | ခွင့်ပြုမိန့်အမှတ်နှင့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|---|---|---|
| ၁။ | Puma Energy Asia Sun Co., Ltd. မြေကွက်အမှတ် - ၃၊ သီလဝါ ဆိပ်ကမ်း၊ သန်လျင်ကျောက်တန်းဒေသ၊ ရန်ကုန်တိုင်းဒေသကြီး ရှိ မြေ (၃၇.၀၆)ဧက | (၃)လုံး (၈)လုံး | ၄၇.၃၈ | | - | ၇၄၈/ ၂၀၁၄ (၂၄-၇-၂၀၁၄) | - ပြည်ပမှ စက်ပစ္စည်း တင်သွင်းခြင်း မရှိသေးပါ။ |

ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မြေ ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၌ ကော်မရှင်မှ ခွင့်ပြုခဲ့သည့် စက်သုံးဆီ သိုလှောင်သည့် ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်မည့် ကုမ္ပဏီများ၏ သိုလှောင်မည့် ဆီကန်များနှင့် သီလဝါဆိပ်ကမ်းဒေသများရှိ ကုမ္ပဏီများစာရင်း

(က) ကော်မရှင်မှ ခွင့်ပြုခဲ့သည့် စက်သုံးဆီ သိုလှောင်သည့် ဝန်ဆောင်မှု လုပ်ငန်းများ(၁)ခု

| စဉ် | ကုမ္ပဏီအမည် နှင့် တည်နေရာ | ဆောက်လုပ်မည့် သိုလှောင်ကန် | ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်း တန်ဘိုး (US$/ သန်း) | ပြည်ပမှ တင်သွင်းပြီး စက်ပစ္စည်း တန်ဘိုး (US$/ သန်း) | ကွင်းဆင်းစစ်ဆေးတွေ့ရှိချက်နှင့် လုပ်ငန်းဆောင်ရွက်မှု အခြေအနေ | ခွင့်ပြုမိန့်အမှတ်နှင့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|---|---|---|
| ၁။ | Puma Energy Asia Sun Co., Ltd. မြေကွက်အမှတ် - ၃၊ သီလဝါ ဆိပ်ကမ်း၊ သန်လျင်ကျောက် တန်းဒေသ၊ ရန်ကုန်တိုင်း ဒေသကြီး ရှိ မြေ (၃၇.၀၆)ဧက | (၃)လုံး<br>(၈)လုံး | ၄၇.၃၈ | | - | ၇၄၈/ ၂၀၁၄<br>(၂၄-၇-၂၀၁၄) | - ပြည်ပမှ စက်ပစ္စည်း တင်သွင်းခြင်း မရှိသေးပါ။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၂၀၁၄ ခုနှစ်၊ ဇွန်လ ၁၃ ရက်၊ သောကြာနေ့၊(၀၉၀၀) နာရီတွင် ဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့ရုံး၊ အမှတ်(၁)၊ သစ္စာလမ်း၊ ကမ္ဘာအေး ဘုရားလမ်းနှင့်သစ္စာလမ်းထောင့်၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့ အစည်းအဝေးခန်းမ၌ ကျင်းပသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၆/၂၀၁၄) ကြိမ်မြောက် အစည်းအဝေးမှတ်တမ်း

အောက်ပါပုဂ္ဂိုလ်များ အစည်းအဝေးသို့ တက်ရောက်ကြပါသည်-

| | |
|---|---|
| ဦးဇေယျာအောင်<br>ပြည်ထောင်စုဝန်ကြီး<br>စွမ်းအင်ဝန်ကြီးဌာန | ဥက္ကဋ္ဌ |
| ဦးဌေးအောင်<br>ပြည်ထောင်စုဝန်ကြီး<br>ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန | ဒုတိယဥက္ကဋ္ဌ |
| ဦးဝင်းထွန်း<br>ပြည်ထောင်စုဝန်ကြီး<br>ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန | အဖွဲ့ဝင် |
| ဒေါ်လဲ့လဲ့သိန်း<br>ဒုတိယဝန်ကြီး<br>အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန | အဖွဲ့ဝင် |
| ဦးညွန့်တင်<br>သံအမတ်ကြီး(အငြိမ်းစား) | အဖွဲ့ဝင် |
| ဦးအောင်နိုင်ဦး<br>ညွှန်ကြားရေးမှူးချုပ်<br>ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန | အတွင်းရေးမှူး |
| ဒေါ်မြသူဇာ<br>ဒုတိယညွှန်ကြားရေးမှူးချုပ်(ငြိမ်း)<br>ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန | တွဲဖက်အတွင်းရေးမှူး |

**ကိုယ်စားတက်ရောက်သူများ**

ဒေါ်မေသီလင်း
ဒုတိယညွှန်ကြားရေးမှူးချုပ်
ပြည်ထောင်စုရှေ့နေချုပ်ရုံး

ပြည်ထောင်စုရှေ့နေချုပ်
ကိုယ်စား

**အစည်းအဝေးမတက်ရောက်သူများ(တာဝန်)**

ဒေါက်တာထွန်းရှင်
ပြည်ထောင်စုရှေ့နေချုပ်
ပြည်ထောင်စုရှေ့နေချုပ်ရုံး

ဒေါက်တာ မောင်မောင်သိန်း
ဒုတိယဝန်ကြီး
ဘဏ္ဍာရေးဝန်ကြီးဌာန

သူရ ဦးသောင်းလွင်
ဒုတိယဝန်ကြီး(အငြိမ်းစား)

ဒေါက်တာအောင်ထွန်းသက်
စီးပွားရေးပညာရှင်

ဦးဝင်းခိုင်
ဥက္ကဌ
မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်း

ဒေါ်ခိုင်ခိုင်နွယ်
စီးပွားရေးလုပ်ငန်းရှင်

**အထူးဖိတ်ကြားခြင်းဖြင့်တက်ရောက်သူများ**

ဦးလှိုင်ဦး
ဒုတိယညွှန်ကြားရေးမှူးချုပ်
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

ဦးဝင်းနိုင်သော်
ညွှန်ကြားရေးမှူး
သစ်တောဦးစီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ဦးမိုးမြင့်
ဒုတိယညွှန်ကြားရေးမှူး
ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန
ရထားပို့ဆောင်ရေးဝန်ကြီးဌာန

ဦးခင်မောင်သက်
ညွှန်ကြားရေးမှူးချုပ်
ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
ဆက်သွယ်ရေး၊ သတင်းအချက်အလက်နှင့် နည်းပညာဝန်ကြီးဌာန

ဦးဝင်းမြင့်
အင်ဂျင်နီယာချုပ်
မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ဒေါ်မြအေးစံ
ဒုတိယညွှန်ကြားရေးမှူး
မြန်မာ့ရေနံဓါတုဗေဒလုပ်ငန်း
စွမ်းအင်ဝန်ကြီးဌာန

ဦးနီအောင်
အထွေထွေမန်နေဂျာ
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
ပို့ဆောင်ရေးဝန်ကြီးဌာန

ဦးမိုးမြတ်ဆွေ
ဒုတိယညွှန်ကြားရေးမှူး
စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း
စက်မှုဝန်ကြီးဌာန

ဒေါ်မြသူဇာ
ဒုတိယညွှန်ကြားရေးမှူး
မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန

ဦးမျိုးမြင့်ဦး
ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့ရေနံနှင့်သဘာဝဓါတ်ငွေ့လုပ်ငန်း
စွမ်းအင်ဝန်ကြီးဌာန

ဦးလှမျိုး
အထွေထွေမန်နေဂျာ
မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

ဦးခင်မောင်ထွန်း
အထွေထွေမန်နေဂျာ
မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ဆက်သွယ်ရေး၊ သတင်းအချက်အလက်နှင့် နည်းပညာဝန်ကြီးဌာန

**ရည်ရွယ်ချက်**

၁။ ရင်းနှီးမြှုပ်နှံမှုဆိုင်ရာကိစ္စရပ်များနှင့်ပတ်သက်၍ ဆွေးနွေးဆုံးဖြတ်ရန်။

**ကော်မရှင်ဥက္ကဋ္ဌမှ အဖွင့်အမှာစကားပြောကြားခြင်း**

၂။ ကော်မရှင်ဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးဇေယျာအောင်က အဖွင့်အမှာစကားပြောကြားရာတွင် ကော်မရှင်မှ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများအား ခွင့်ပြုပေးရာ၌ အလုပ်အကိုင်အခွင့်အလမ်း ရရှိရေး၊ ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ရေးတို့အပေါ်တွင် အခြေခံပြီး ဆုံးဖြတ်ခွင့်ပြုပေးရသဖြင့် အချို့ကိစ္စများမှာ ပတ်ဝန်းကျင်ထိန်းသိမ်းရေးအတွက် ဆိုင်းငံ့ထားရကြောင်း၊BRT ကိစ္စနှင့် ပတ်သက်၍ အမြန်ဖြေရှင်းပေးရန် ဖြစ်သော်လည်း ရန်ကုန်တိုင်းဒေသကြီးအစိုးရ၊ မထသတို့နှင့်ညှိနှိုင်းဆောင်ရွက်ရမည်ဖြစ်၍ ကြန့်ကြာမှုရှိနေခြင်းဖြစ်သည်ကို တွေ့ရှိရကြောင်း၊ အချိန်ကြန့်ကြာမှုမရှိနိုင်သောကိစ္စရပ်များကို မြန်ဆန်စွာ ဆောင်ရွက်ပေးရန် လိုအပ်ပါကြောင်း၊ကော်မရှင်အနေဖြင့် ရင်းနှီးမြှုပ်နှံမှုအဆိုပြုလွှာများအား စစ်ဆေးဆုံးဖြတ်ရာတွင် နယ်ပယ်အားလုံးကို တာဝန်ယူဆုံးဖြတ်၍ မရနိုင်သဖြင့် မိမိတို့နှင့် သက်ဆိုင်သည့်၊ တာဝန်ယူဆုံးဖြတ်ရမည့်ကိစ္စရပ်များကို ရွေးထုတ်ပြီး ဆုံးဖြတ်ခြင်းဖြင့်လုပ်ငန်းများ ပိုမိုမြန်ဆန်သွက်လက်လာမည်ဖြစ်ကြောင်း၊ သက်ဆိုင်ရာ ဝန်ကြီးဌာနများသို့ သဘောထားမှတ်ချက်တောင်းခံရာတွင်လည်း ရက်ပေါင်းများစွာ အချိန်ယူစောင့်ပြီးမှ သဘောထားမှတ်ချက် ပေးရန်မရှိပါဟူသော ပြန်ကြားချက်မျိုး

Puma

MIC (16/2014



ားနိုင်ပါကြောင်း၊ ယင်းသို့လျှောက်ထားသည်က လုပ်ငန်းသဘောအရ ပိုမိုအဆင်ပြေပြီး ဥပဒေကြောင်းအရလည်း ကိုက်ညီမှုရှိပါကြောင်း၊ အဆိုပြုလွှာတွင် တည်ဆောက်ရေးကာလအား (၂)နှစ်သာ တင်ပြထားရာ ကုမ္ပဏီအနေဖြင့် ယင်းကာလအတွင်း ပြီးစီးအောင်ဆောင်ရွက်နိုင်ခြင်း ရှိ/မရှိ ပြန်လည် သုံးသပ်ပြီးတည်ဆောက်ရေးကာလအား ပိုမိုသတ်မှတ်ပေးရန် ပြင်ဆင်တင်ပြလိုပါက ခွင့်ပြုမိန့်မထုတ်မီ ကော်မရှင်သို့ တရားဝင်စာဖြင့် တင်ပြနိုင်ပါကြောင်း ဖြည့်စွက်ဆွေးနွေးပါသည်။

ကော်မရှင်ဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးဇေယျာအောင်က မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်အား ဆောင်ရွက်ခွင့်ပြုထားသည့် လုပ်ငန်းများအား အမှန်တကယ် ဆောင်ရွက်ခြင်းရှိ/မရှိ နှင့် လွန်ခဲ့သော တစ်နှစ်ခန့်က ခွင့်ပြုမိန့်ထုတ်ပေးခဲ့သော လုပ်ငန်းများအား ပြန်လည်စိစစ်ရန် လမ်းညွှန်မှာကြားပါသည်။

ကော်မရှင်အစည်းအဝေးမှ HSL Group JV Co., Ltd. ၏ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ(၁၇၈)သန်းအားရင်းနှီးမြှုပ်နှံ၍ရန်ကုန်တိုင်းဒေသကြီး၊ တာမွေမြို့နယ်၊ အရှေ့မြင်းပြိုင်ကွင်းလမ်းနှင့် လေးထောင့်ကန်လမ်းထောင့်၊ မြေတိုင်းအကွက်အမှတ်(၃၄/ဃ)၊ (၅၁/က)၊ မြေကွက်အမှတ်-၁၈ ရှိ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်ပိုင် မြေဧက ၈.၉၃၃ အား ငှားရမ်းပြီး BOT စနစ်ဖြင့် Polo Club Residence အဆင့်မြင့်လူနေအိမ်ခန်းများ တည်ဆောက်ငှားရမ်းမည့်လုပ်ငန်းအား ခွင့်ပြုရန်နှင့် ကော်မရှင်ခွင့်ပြုမိန့်မထုတ်ပေးမီ အဆိုပြုလွှာပါ တည်ဆောက်ရေးကာလအား တိုးမြှင့်ပြင်ဆင်လိုပါက တရားဝင်စာဖြင့် တင်ပြစေရန်၊ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ လွန်ခဲ့သောတစ်နှစ်ခန့်က ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့်ရရှိထားသည့် ကုမ္ပဏီများအား အမှန်တကယ်ဆောင်ရွက်ခြင်းရှိ၊ မရှိ ပြန်လည်စိစစ်ရန် ဆုံးဖြတ်ပါသည်။

၆။ **Puma Energy Asia Sun Co., Ltd မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ (၈၆.၄) သန်းထည့်ဝင်၍ ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ တင်/ချ ဆိပ်ခံတံတားနှင့် သိုလှောင်ရေး အထောက်အကူပြု အဆောက်အဦများအား BOT စနစ်ဖြင့် တည်ဆောက်ပြီး သိုလှောင်ခြင်းဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ**

ကော်မရှင်အတွင်းရေးမှူး ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦးက အမှာစာအကြောင်းအရာအား အကျဉ်းချုပ်ဆွေးနွေးတင်ပြပြီး အဓိကအချက်များကို ကုမ္ပဏီမှ ဆွေးနွေးတင်ပြပေးရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီမှ တာဝန်ရှိသူတစ်ဦးက နိုင်ငံခြားသားရင်းနှီးမြှုပ်နှံသူ Puma Energy Irrawaddy Pte. Ltd. နှင့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံသူ Asia Sun Energy Co., Ltd. တို့ ပူးပေါင်း၍ Puma Energy Asia Sun Co., Ltd အဖြစ် တည်ထောင်ပြီး ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ (၈၆.၄)သန်းထည့်ဝင်ပြီးရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်း၊ အကွက်အမှတ်(၃)ရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ပိုင်ဆိုင်သည့် မြေဧရိယာ(၃၇.၀၆)ဧကတွင် ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ တင်/ချ ဆိပ်ခံတံတားနှင့် သိုလှောင်ရေး အထောက်အကူပြု အဆောက်အဦများအား BOT စနစ်ဖြင့် တည်ဆောက်ပြီး သိုလှောင်ခြင်း ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်မည့် အခြေအနေ၊ Puma Energy Irrawaddy Pte. Ltd. ၏ နိုင်ငံတကာတွင် လုပ်ငန်းဆောင်ရွက်နေမှု အတွေ့အကြုံများနှင့် မြန်မာနိုင်ငံတွင် လုပ်ငန်းဆောင်ရွက်ရန် စီစဉ်ထားမှုအခြေအနေ၊ လက်ရှိ မြန်မာ

၄ သိုလှောင်ကန် တည်ဆောက်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန် ဆုံးဖြတ်ပါသည်။

၇။ **Eusebio Sporting Co., Ltd. မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ (၂.၃၆၅၇)သန်းဖြင့် Sleeping Bag, Rucksack, Tent နှင့် Outdoors Apparel များအား CMP စနစ်ဖြင့်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

ကော်မရှင်အတွင်းရေးမှူး ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦးက အမှာစာအကြောင်းအရာအား အကျဉ်းချုပ်ဆွေးနွေးတင်ပြပြီး အဓိကအချက်များကို ကုမ္ပဏီမှ ဆွေးနွေးတင်ပြပေးရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီမှ တာဝန်ရှိသူတစ်ဦးက မိမိတို့ကုမ္ပဏီသည် ထိုင်ဝမ်အခြေစိုက် ကုမ္ပဏီတစ်ခု ဖြစ်ကြောင်း၊ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ (၂.၃၆၅၇)သန်းဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ ကနောင်မင်းသားကြီးလမ်း၊ မြေတိုင်းအကွက်အမှတ်(၂၅)၊ မြေကွက်အမှတ်(၂၀၂)ရှိ မြေနှင့်အဆောက်အဦးအား ငှားရမ်းပြီး စက်ရုံအဖြစ်တပ်ဆင်ကာ Sleeping Bag, Rucksack, Tent နှင့် Outdoors Apparel များအား CMP စနစ်ဖြင့် ထုတ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ စက်ရုံတည်ဆောက်ရေးအတွက် အမေရိကန်ဒေါ်လာ(၁.၄၄၈၁)သန်းတန်ဖိုးရှိစက်ပစ္စည်းနှင့်ကိရိယာများအား ပြည်ပမှတင်သွင်းသွားမည်ဖြစ်ပြီးအခြားလိုအပ်သော စက်ပစ္စည်းများနှင့် ရုံးခန်းသုံးပစ္စည်းများအား ပြည်တွင်း၌ ဝယ်ယူအသုံးပြုမည်ဖြစ်ကြောင်း၊ လုပ်သား လိုအပ်ချက်အနေဖြင့် နိုင်ငံခြားသား ကျွမ်းကျင်သူ (၁၅)ဦးနှင့် ပြည်တွင်းလုပ်သား(၁၁၅၃)ဦးအား ခန့်အပ် သွားမည်ဖြစ်ကြောင်း၊ IRR မှာ ၁၉.၆၉ ရာခိုင်နှုန်းရှိသဖြင့် (၄)နှစ်နှင့် (၅)လတွင် အရင်းကြေကာ အမြတ် ရရှိမည်ဟု ခန့်မှန်းထားပါကြောင်း၊ ကုမ္ပဏီ၏ အသားတင်အမြတ်ငွေမှ (၁)ရာခိုင်နှုန်းအား CSR အဖြစ် လူမှုအကျိုးပြုလုပ်ငန်းများ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ မီးဘေးလုံခြုံရေး လိုအပ်ချက်များကို ကြိုတင်ပြင်ဆင်ဆောင်ရွက်သွားမည်ဖြစ်ပြီး စက်ရုံလုပ်သားများကိုလည်း အရေးပေါ် မီးဘေးအခြေအနေ အတွက် ကြိုတင် လေ့ကျင့် ပေးသွားမည်ဖြစ်ကြောင်း၊ စက်ရုံမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများ၊ အမှိုက်သရိုက်များအား ရန်ကုန်မြို့တော်စည်ပင်၏ အစီအစဉ်ဖြင့် သိမ်ဆည်းခြင်း၊ စက်ရုံဝင်းအတွင်း မြေကျင်းတူး၍ စွန့်ပစ်ခြင်းများ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အဖွဲ့ဝင် ဦးညွန့်တင်က ထုတ်ကုန်များ တင်ပို့မည့်ဈေးကွက်အခြေအနေ၊ မီးဘေးအတွက် ရေသိုလှောင်ကန်များ ထားရှိမည့်အခြေအနေ၊ အရေးပေါ်ထွက်ပေါက်များ၊ မီးသတ်ပိုက်များ ထားရှိမည့်အခြေအနေတို့ကိုမေးမြန်းပြီးစက်ရုံမှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများအား စက်ရုံဝင်းအတွင်း၌ ကျင်းတူး၍ စွန့်ပစ် မည့်အစီအစဉ်မှာ စနစ်မကျသဖြင့် ရန်ကုန်မြို့တော်စည်ပင်၏ အစီအစဉ်ဖြင့် ညှိနှိုင်းဆောင်ရွက်သွားရန် ဖြည့်စွက်ဆွေးနွေးရာ ကုမ္ပဏီမှ တာဝန်ရှိသူတစ်ဦးက အဓိက တင်ပို့မည်ဈေးကွက်မှာ ဥရောပနိုင်ငံများ၊ ရုရှားနိုင်ငံနှင့် ရာသီဥတုအေးသည့် နိုင်ငံများ၊ တောင်တက်ခရီးသွားလေ့ရှိသည့် နိုင်ငံ များသို့ တင်ပို့သွားမည်ဖြစ်ကြောင်း၊ မီးဘေးလုံခြုံရေးအတွက် ဂါလံ (၅၀၀၀၀)ဆံ့ ရေလှောင်ကန် (၂)ကန် အပါအဝင် စက်ရုံပတ်လည်တွင် မီးသတ်ငုတ်များ ထားရှိသွားမည်ဖြစ်ပါကြောင်း၊ စက်ရုံထွက် စွန့်ပစ် ပစ္စည်း

...ငံတွင်ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ သိုလှောင်ထားရှိရန် ဝန်ဆောင်မှုနှင့် အခြေခံအဆောက်အဦ လိုအပ်ချက် အနေ အထားနှင့် ကုမ္ပဏီမှ ဆိပ်ခံတံတား၊ သိုလှောင်ကန်များအပါအဝင် အခြားဆက်စပ် ဝန်ဆောင်မှုအဆောက်အဦများ တည်ဆောက်မည့်အခြေအနေ၊ဈေးငွေရယူဆောင်ရွက်မည့်အခြေအနေနှင့် အရင်းကြေကာလတွက်ချက်ထားမှု အခြေအနေ၊ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် လိုအပ်မည့် တည်ဆောက်ရေးကာလနှင့် တည်ဆောက်ရေးကာလအတွင်း ပြည်တွင်းပြည်ပမှ ဝယ်ယူအသုံးပြုရမည့် တည်ဆောက်ရေးပစ္စည်းများစာရင်း၊ အလုပ်အကိုင်အခွင့်အလမ်း ဖန်တီးပေးနိုင်မှုအခြေအနေ၊ မီးဘေးလုံခြုံရေးအတွက် လိုအပ်သည့် အခြေခံအဆောက်အဦများ ထည့်သွင်းတည်ဆောက်မည့်အစီအစဉ်၊ သဘာဝပတ်ဝန်းကျင် ထိခိုက်မှုကို ကာကွယ်နိုင်ရန်အတွက် အနီးနားပတ်ဝန်းကျင်ကို အနှောက်အယှက်မဖြစ်စေရေးအတွက် Noise Management, Water Management, Waste Water Management, Air Management, Waste Management နှင့် Hazardous Material Management များ ထည့်သွင်းဆောင်ရွက်မည့် အစီအစဉ်တို့ကို ရှင်းလင်းတင်ပြပါသည်။

ဆက်လက်၍ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ အထွေထွေမန်နေဂျာ ဦးနီအောင်က ပို့ဆောင်ရေးဝန်ကြီးဌာနအနေဖြင့် ယခုတင်ပြသည့် လုပ်ငန်းဆောင်ရွက်ရန်အတွက် ကုမ္ပဏီများအား တင်ဒါခေါ်ယူခဲ့ပြီး တင်ဒါအောင်မြင်ခဲ့သည့် Puma Energy Asia Sun Co., Ltd အား လုပ်ငန်းဆောင်ရွက်ခွင့်ပြုခဲ့ခြင်းဖြစ်ကြောင်း ဖြည့်စွက်တင်ပြပါသည်။

ကော်မရှင် ဒုတိယဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးသွေးအောင်က ကုမ္ပဏီအနေဖြင့် သက်ဆိုင်ရာဝန်ဆောင်မှုလုပ်ငန်း လိုအပ်ချက် Infrastructure အပိုင်းကို Feasibility Study လုပ်ကာ တင်ပြသကဲ့သို့ Distribution အတွက်ကိုပါ Feasibility Study လုပ်ထားခြင်းရှိ/မရှိ မေးမြန်းရာ ကုမ္ပဏီအနေဖြင့် နိုင်ငံတကာတွင် လုပ်ငန်းအတွေ့အကြုံများစွာရှိနေပြီး ဖြစ်သည့်အတွက် ကြိုတင်ခန့်မှန်းတွက်ချက်နိုင်ပါကြောင်း ဖြေကြားတင်ပြပါသည်။

ကော်မရှင်ဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးဇေယျာအောင်က ကုမ္ပဏီအနေဖြင့် ယခုတင်ပြလာ သည့် ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းအတွက် ပို့ဆောင်ရေး ဝန်ကြီးဌာနမှ တင်ဒါအောင်မြင်ခဲ့ပြီး ယခု ကော်မရှင်မှ ခွင့်ပြုခဲ့ပါကလည်း စွမ်းအင်ဝန်ကြီးဌာနမှ ခွင့်ပြုပေးမည့် ဖြန့်ဖြူးခွင့်လိုင်စင်ကို ရရှိမည်ဟု တစ်ထစ်ချတွက်မထားသင့်ကြောင်း ဆွေးနွေးမှာကြား ပါသည်။

ကော်မရှင်အဖွဲ့ဝင် ဦးညွန့်တင်က ကုမ္ပဏီမှ သိုလှောင်ဝန်ဆောင်မှုပေးမည့် ရေနံဆက်စပ်ပစ္စည်းဆိုရာတွင် မည်သည့်ပစ္စည်းများပါဝင်သည်ကို သိရှိလိုကြောင်း မေးမြန်းရာ ကုမ္ပဏီမှ တာဝန်ရှိသူတစ်ဦး က ရေနံနှင့်ဆက်စပ်ပစ္စည်းများတွင် ကတ္တရာ၊ လောင်စာဆီများ၊ ဓါတ်ဆီများ၊ ဒီဇယ်ဆီများ၊ လေယာဉ်ဆီများ စသည်တို့ ပါဝင်မည်ဖြစ်ပါကြောင်း ပြန်လည်တင်ပြပါသည်။

ကော်မရှင်အစည်းအဝေးမှ Puma Energy Asia Sun Co., Ltd ၏ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ (၈၆.၄)သန်းထည့်ဝင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်း နယ်မြေ၊ သီလဝါဆိပ်ကမ်း၊ အကွက်အမှတ်(၃)ရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ပိုင်ဆိုင်သည့် မြေဧရိယာ (၃၇.၀၆)ဧကကို BOTစနစ်ဖြင့် ငှားရမ်းကာ ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ တင်/ချဆိပ်ခံတံတား

| ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|
| ၄၁။ အစည်းအဝေးမှ အောက်ဖော်ပြပါတို့ကိုဆုံးဖြတ်ကြပါသည်- | |
| (က) Colgate Palmolive (Myanmar) Ltd. ၏ ရာနှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ(၈၉.၅)သန်းဖြင့် ရန်ကုန်တိုင်း ဒေသကြီး၊ ရွှေပြည်သာ မြို့နယ်၊ စက်မှုဇုန်အမှတ်(၁)၊ ချယ်ရီလမ်း၊ အကွက်အမှတ်(၁၀၁)နှင့်အကွက်အမှတ်(၉၇)တွင် Manufacturing and Marketing of Oral Care Products and Personal Care Products လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် |
| (ခ) HSL Group JV Co., Ltd. ၏ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အမေရိကန်ဒေါ်လာ (၁၇၈)သန်းအား ရင်းနှီးမြှုပ်နှံ၍ ရန်ကုန်တိုင်း ဒေသကြီး၊တာမွေမြို့နယ်၊ အရှေ့မြင်းပြိုင်ကွင်းလမ်းနှင့် လေးထောင့် ကန် လမ်းထောင့်၊ မြေတိုင်းအကွက်အမှတ်(၃၄/ဃ)၊ (၅၁/က)၊ မြေကွက်အမှတ်-၁၈ ရှိ မြန်မာ့ စီးပွားရေး ဦးပိုင်လီမိတက်ပိုင် မြေဧက ၈.၉၃၃ အား ငှားရမ်းပြီး BOT စနစ်ဖြင့် Polo Club Residence အဆင့်မြင့်လူနေအိမ်ခန်းများ တည်ဆောက်ငှားရမ်းမည့်လုပ်ငန်းအား ခွင့်ပြုရန်နှင့် ကော်မရှင်ခွင့်ပြုမိန့် မထုတ်ပေးမီ အဆိုပြုလွှာပါ တည် ဆောက်ရေး ကာလအား တိုးမြှင့်ပြင်ဆင်လိုပါက တရားဝင်စာဖြင့် တင်ပြစေရန်။<br><br>မြန်မာ့စီးပွားရေး ဦးပိုင်လီမိတက်မှ လွှန်ခဲ့သော တစ်နှစ်ခန့်က ကော်မရှင်၏ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့် ရရှိထားသည့် ကုမ္ပဏီ များအား အမှန်တကယ်ဆောင်ရွက်ခြင်း ရှိ/မရှိ ပြန်လည် စိစစ်ရန်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်<br><br>မြန်မာ့စီးပွားရေးဦးပိုင် လီမိတက် |
| (ဂ) Puma Energy Asia Sun Co., Ltd ၏ ဖက်စပ်နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဖြင့် အမေရိကန်ဒေါ်လာ (၈၆.၄)သန်းထည့်ဝင်ပြီး ရန်ကုန် တိုင်း ဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊သီလဝါဆိပ်ကမ်း၊ အကွက် အမှတ်(၃)ရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ပိုင်ဆိုင်သည့် မြေဧရိယာ (၃၇.၀၆)ဧကကို BOT စနစ်ဖြင့်ငှားရမ်းကာ ကတ္တရာနှင့် ရေနံ ဆက်စပ်ပစ္စည်းများ တင်/ချဆိပ်ခံ တံတားနှင့် သိုလှောင်ကန် တည် ဆောက်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် |

PUMA ENERGY

**PUMA ENERGY IRRAWADDY PTE LTD**

**To**

**Director General**
**Myanmar Investment Commission**
**Building No. (32), Nay Pyi Taw**

**Date: 3rd June 2014**

**Subject:** **Application for Investment Permit to build Bitumen and petroleum relate products storage terminals, jetty and other buildings on B.O.T system by forming Puma Energy Asia Sun Company Limited under Joint Venture foreign investment**

**Reference:** **(1) Letter No. Ya Ka-6 (KaGyi) / Na-983 / 2014 (5136) from Myanmar Investment Commission, dated 3rd June 2014**

**(2) Letter No. 57-Kwel (3) 14 (5369) from Ministry of Mines, dated 28th May 2014**

Dear Sir/Madam,

I would like to inform that Puma Energy Asia Sun Company Limited will follow closely to **"The Petroleum Rules Article 5 of Schedule 1, Form L"** as advised by Ministry of Mines in Letter No. 57-Kwel (3) 14 (5369) from Mnistry of Mines, dated 28th May 2014.

Puma Energy Asia Sun Company Limited will implement the best international safety and operational standards for bitumen and fuel storage terminals. We will submit the complete drawings once detailed engineering drawings have been finalized. If there is any change, we will seek approval and advice from Ministry of Mines.

Yours faithfully,

Jasper Camacho
General Manager
Puma Energy

1, Marina Boulevard, #28-00, Singapore 018989.

PUMA ENERGY

## PUMA ENERGY IRRAWADDY PTE LTD

To

**Director General**
**Myanmar Investment Commission**
**Building No. (32), Nay Pyi Taw**

**Date: 9th June 2014**

**Subject:** **Application for Investment Permit to build Bitumen and petroleum relate products storage terminals, jetty and other buildings on B.O.T system by forming Puma Energy Asia Sun Company Limited under Joint Venture foreign investment**

**Reference:** **(1) Letter No. Ya Ka-6 (KaGyi) / Na-983 / 2014 (5741) from Myanmar Investment Commission, dated 7th June 2014**

**(2) Letter No. 2872/100/52/Oo 1 from Fire Service Department, dated 4th June 2014**

Dear Sir/Madam,

I would like to inform that Puma Energy Asia Sun Company Limited has received the above mentioned reference letters from Myanmar Investment Commission and Fire Service Department.

Puma Energy Asia Sun Company Limited agrees to requirements and conditions mentioned in the letter from Fire Service Department and we will follow closely to theirs instructions and the systems advised to be implemented.

Yours faithfully,

Jasper Camacho
General Manager
Puma Energy

1, Marina Boulevard, #28-00, Singapore 018989

PUMA ENERGY

## PUMA ENERGY IRRAWADDY PTE LTD

To

**Director General**
**Myanmar Investment Commission**
**Building No. (32), Nay Pyi Taw**

**Date: 9th June 2014**

**Subject:** **Application for Investment Permit to build Bitumen and petroleum relate products storage terminals, jetty and other buildings on B.O.T system by forming Puma Energy Asia Sun Company Limited under Joint Venture foreign investment**

**Reference:** **(1) Letter No. Ya Ka-6 (KaGyi) / Na-983 / 2014 (5739-KaGyi) from Myanmar Investment Commission, dated 6th June 2014**
**(2) Letter No. MaAhTha/MIC/0920/2014 from Myanmar Engineer Society, dated 20th May 2014**

Dear Sir/Madam,

I would like to inform that Puma Energy Asia Sun Company Limited has received the above mentioned reference letters from Myanmar Investment Commission and Myanmar Engineer Society.

Puma Energy Asia Sun Company Limited agrees to the "Bill of Quantity" details and other conditions mentioned in the letter from Myanmar Engineer Society. After the detailed engineering drawings and designs have been finalized and if there is any difference, we will seek approval and advice from Myanmar Engineer Society and Myanmar Investment Commission respectively.

Yours faithfully,

Jasper Camacho
General Manager
Puma Energy

1-4467
16/5/2014

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၅၂ - ပဆ/ ခွဲ(၁)၂၀၁၄(ည)(၅/ ၁၉၃ )
ရက်စွဲ ၊ ၂၀၁၄ ခုနှစ် ၊ မေလ ၁၆ ရက်

အကြောင်းအရာ။ **Puma Energy Asia Sun Company Limited အား သီလဝါဆိပ်ကမ်းဒေသတွင် ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ တင်/ချဆိပ်ခံတံတားနှင့် အထောက်အကူပြု အဆောက်အအုံများ တည်ဆောက်ကာ BOT စနစ်ဖြင့် လုပ်ငန်း ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် ကိစ္စ**

၁။ နိုင်ငံတော်၏ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေရန်နှင့် တည်ဆောက်ရေးလုပ်ငန်းများတွင် ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ လိုအပ်ချက်ကို ဖြည့်ဆည်းပေးနိုင်ရန်အတွက် သီလဝါဆိပ်ကမ်းဒေသ မြေကွက်အမှတ်(၃)အား BOT စနစ်ဖြင့် ငှားရမ်းပြီး ကတ္တရာ နှင့် ရေနံဆက်စပ်ပစ္စည်းများ တင်/ချ ဆိပ်ခံတံတားနှင့် သိုလှောင်ကန်များ တည်ဆောက်ခြင်းလုပ်ငန်းကို ရင်းနှီးမြှုပ်နှံသူများအား ပွင့်လင်းမြင်သာသည့် တင်ဒါစနစ်ဖြင့် ခေါ်ယူသွားမည့်ကိစ္စအပေါ် မူအားဖြင့် ခွင့်ပြုနိုင်ပါရန် ပို့ဆောင်ရေးဝန်ကြီးဌာနမှ နိုင်ငံတော်သမ္မတရုံးသို့ တင်ပြခဲ့ရာ၊ နိုင်ငံတော်သမ္မတရုံးမှ ခွင့်ပြုခဲ့ပြီး ဖြစ်ပါသည်။ **နောက်ဆက်တွဲ(က)**

၂။ နိုင်ငံတော်သမ္မတရုံး၏ ညွှန်ကြားချက်နှင့်အညီ သီလဝါဆိပ်ကမ်းဒေသ မြေကွက်အမှတ်(၃)အား BOT စနစ်ဖြင့် ငှားရမ်းပြီး ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ တင်/ချဆိပ်ခံ တံတားနှင့် သိုလှောင်ကန်များ တည်ဆောက်ခြင်းလုပ်ငန်း တင်ဒါနှင့်ပတ်သက်၍ ၈-၄-၂၀၁၃ ရက်နေ့ နှင့် ၉-၄-၂၀၁၃ ရက်နေ့တို့တွင် မြန်မာ့အလင်း သတင်းစာ၊ ကြေးမုံ သတင်းစာနှင့် The New Light of Myanmar သတင်းစာတို့၌ ကြော်ငြာထည့်သွင်းခဲ့ပြီး၊ ၁၀-၄-၂၀၁၃ ရက်နေ့နှင့် ၁၁-၄-၂၀၁၃ ရက် နေ့တို့တွင် တင်ဒါပုံစံနှင့် တင်ဒါစည်းကမ်းချက်များကို ရောင်းချခဲ့ရာ တင်ဒါ စောင်ရေ (၁၈)စောင်ကို ရောင်းချခဲ့ရပါသည်။ တင်ဒါတင်သွင်းသည့် ကုမ္ပဏီ(၂)ခုရှိပြီး ၈-၅-၂၀၁၃ ရက်နေ့တွင် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်(ရုံးချုပ်)၌ ပို့ဆောင်ရေးဝန်ကြီးဌာနမှ ဖွဲ့စည်းတာဝန်ပေးအပ်သော တင်ဒါစိစစ် ရွေးချယ်ရေးအဖွဲ့ဖြင့် စိစစ်ရွေးချယ်ခဲ့ပါသည်။

၃။ တင်ဒါတင်သွင်းသည့် ကုမ္ပဏီ(၂)ခုအနက် China Harbour Engineering Co., Ltd သည် တင်ဒါစိစစ်ရွေးချယ်ရာ၌ အခြေခံသတ်မှတ်ချက်များနှင့် ကိုက်ညီခြင်းမရှိသည့်အတွက် ပဏာမအဆင့် အောင်မြင်ခဲ့ခြင်း မရှိပါကြောင်းနှင့် Puma Energy Group Pte, Ltd သည် အခြေခံ သတ်မှတ်ချက်များနှင့် ကိုက်ညီခြင်းရှိသည့်အတွက် ပဏာမအဆင့် တင်ဒါအောင်မြင်ခဲ့ပါသည်။

၄။ တင်ဒါပဏာမအဆင့် အောင်မြင်ခဲ့သည့် Puma Energy Group Pte, Ltd ကို သီလဝါဆိပ်ကမ်းဒေသ မြေကွက်အမှတ်(၃)အား BOTစနစ်ဖြင့် ငှားရမ်းပြီး ကတ္တရာနှင့် ရေနံ ဆက်စပ် ပစ္စည်းများ တင်/ချ ဆိပ်ခံတံတားနှင့် သိုလှောင်ကန်များ တည်ဆောက်၍ နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဥပဒေနှင့် နည်းဥပဒေပါ အခွင့်အရေးများကို ခံစားခွင့်ပြုလျက် လုပ်ငန်းလုပ်ကိုင်ခွင့်ကာလ ကနဦး(၅၀)နှစ် နှင့်

နောက်ထပ်(၁၀)နှစ် နှစ်ကြိမ် တိုးမြှင့်သည့်စနစ်ဖြင့် စုစုပေါင်း နှစ်(၇၀) ခွင့်ပြု သည့် BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက် ခွင့်ပြုရန်ကိစ္စနှင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Puma Energy Group Pte, Ltd တို့အကြား ချုပ်ဆိုမည့်စာချုပ် (မူကြမ်း)ကို နှစ်ဘက်ညှိနှိုင်း ရေးဆွဲပြီး ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ သဘောထားမှတ်ချက်တောင်းခံ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ဆက်လက်တင်ပြရန် ကိစ္စ တို့ကို ၂၄-၆-၂၀၁၃ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပို့ဆောင်ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေး အမှတ်စဉ် (၈/၂၀၁၃) က သဘောတူညီပြီး ဖြစ်ပါ၍ Puma Energy Group Pte, Ltd ၏စီမံကိန်းအဆိုပြုလွှာကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြပေးနိုင်ပါရန် **နောက်ဆက်တွဲ(ခ)** ပါစာဖြင့် ပို့ဆောင်ရေးဝန်ကြီးဌာနသို့ တင်ပြခဲ့ရာ၊ ပို့ဆောင်ရေးဝန်ကြီးဌာနမှ **နောက်ဆက်တွဲ(ဂ)**ပါစာဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ပြီး အဆိုပါစီမံကိန်း အဆိုပြုလွှာနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြု စစ်ဆေးရေးအဖွဲ့မှ လိုအပ်သော အချက်အလက်များ ပြင်ဆင်၍ ပြန်လည်တင်ပြရန် **နောက်ဆက်တွဲ(ဃ)**ပါ စာဖြင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ အကြောင်းကြားခဲ့ပါသည်။

၅။ စီမံကိန်းအဆိုပြုလွှာနှင့်ပတ်သက်၍ လိုအပ်သောအချက်အလက်များ ပြင်ဆင်ဆောင်ရွက်နေချိန်အတွင်း လုပ်ငန်းများ လွယ်ကူချောမွေ့စွာ ဆောင်ရွက်နိုင်ရန်အတွက် Puma Energy Group Pte, Ltd အမည်မှ Puma Energy Irrwaddy Pte, Ltd အမည်သို့ ပြောင်းလဲပြီး Puma Energy Irrwaddy Pte, Ltd မှ ပင်မရင်းနှီးမြှုပ်နှံသူအဖြစ် ဆောင်ရွက်ကာ မြန်မာနိုင်ငံတွင် လုပ်ငန်းများ ဆောင်ရွက်ရာ၌ Puma Energy Asia Sun Co., Ltd အမည်ဖြင့် လုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် Puma Energy Group Pte, Ltd မှ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ တင်ပြခဲ့ပြီး၊ အဆိုပါကိစ္စနှင့်ပတ်သက်၍ ပို့ဆောင်ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီသို့ တင်ပြခဲ့ရာ ၁၀-၄-၂၀၁၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပို့ဆောင်ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေး အမှတ်စဉ် (၆/၂၀၁၄) မှ သဘောတူ ခွင့်ပြုပြီး ဖြစ်ပါသည်။

၆။ Puma Energy Asia Sun Co., Ltd သို့ အငှားချထားမည့် သီလဝါဆိပ်ကမ်း မြေကွက် အမှတ်(၃)သည် မြေဧရိယာ စုစုပေါင်း (၃၇.၀၆)ဧက ရှိပြီး အဆိုပါမြေကို ကျောထောက်နောက်ခံပြုကာ ကမ်းနဖူး မျက်နှာစာ အလျား (၂၀၀)မီတာ x အကျယ် (၃၅) မီတာ အရွယ်ရှိ ဆိပ်ခံတံတား တစ်စင်းနှင့် အလျား (၁၂၀)မီတာ x အကျယ် (၅) မီတာ အရွယ် ချဉ်းကပ်တံတား (၁)စင်း ပါဝင်သော ကွန်ကရစ် ဆိပ်ခံတံတားကို တည်ဆောက်မည်ဖြစ်ပြီး၊ ကျောထောက်နောက်ခံမြေပေါ်တွင် ကတ္တရာ(၇၀၀၀) ကုဗမီတာ သိုလှောင်ထားနိုင်သည့် သိုလှောင်ကန် (၃)လုံး၊ ရေနံဆက်စပ်ပစ္စည်းများ (၈၃၇၅) ကုဗမီတာ သိုလှောင်ထားနိုင်သည့် သိုလှောင်ကန်(၈)လုံးနှင့် အခြားလုပ်ငန်း အထောက်အကူပြု အဆောက်အဦများ တည်ဆောက်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် နည်းဥပဒေပါ အခွင့်အရေးများကို ခံစားစေ၍ လုပ်ငန်းဆောင်ရွက်ခွင့်ပြုနိုင်ပါရန် စီမံကိန်းအဆို ပြုလွှာကို Puma Energy Asia Sun Co., Ltd မှ တင်ပြလာပါသည်။ **နောက်ဆက်တွဲ(င)**

၇။ စီမံကိန်းအဆိုပြုလွှာတွင် အဓိကအားဖြင့် အောက်ပါအချက်များ ပါဝင်ပါသည် -

| | | |
|---|---|---|
| (က) | စီမံကိန်းတည်နေရာ | - သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၃) |
| (ခ) | စုစုပေါင်း မြေဧရိယာ | - ၃၇.၀၆ ဧက (၁၄၉၉၈၂ စတုရန်းမီတာ) |
| (ဂ) | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ပမာဏ | - US $ ၈၆.၄ သန်း |
| (ဃ) | တည်ဆောက်ရေးကာလ | - သဘောတူစာချုပ် လက်မှတ်ရေးထိုးပြီး (၃၀)လ |
| (င) | တည်ဆောက်မည့် ဆိပ်ခံတံတား | - မျက်နှာစာ အလျား ၂၀၀ မီတာ x အကျယ် ၃၅ မီတာ |
| (စ) | တည်ဆောက်မည့်ချဉ်းကပ်တံတား | - အလျား ၁၂၀ မီတာ x အကျယ် ၅ မီတာ |
| (ဆ) | မြေငှားကာလ/ လုပ်ငန်းလုပ်ကိုင်ခွင့်ကာလ | ကနဦး (၅၀)နှစ်နှင့် သက်တမ်းတိုးနောက်ထပ်(၁၀)နှစ် (၂)ကြိမ် တိုးမြှင့်ခွင့်ဖြင့် စုစုပေါင်း (၇၀)နှစ် |
| (ဇ) | မြေအသုံးချမှု ပရီမီယံကြေး (တစ်စတုရန်းမီတာလျှင် US$ ၆.၆၆၇ နှုန်း) | - US$ ၁,၀၀၀,၀၀၀.၀၀ |
| (ဈ) | နှစ်စဉ်မြေငှားရမ်းခ (တစ်စတုရန်းမီတာလျှင် US$ ၀.၁၆၇ နှုန်း) | - US$ ၃၆၀,၀၀၀.၀၀ |

၈။ Puma Energy Asia Sun Co., Ltd အား သီလဝါဆိပ်ကမ်းဒေသ မြေကွက် အမှတ်(၃)ကို ကျောထောက်နောက်ခံပြု၍ ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ တင်/ချဆိပ်ခံ တံတား၊ သိုလှောင်ကန်များနှင့် အထောက်အကူပြု အဆောက်အအုံများကို BOT စနစ်ဖြင့် အကောင်အထည်ဖော်တည်ဆောက်ကာ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုခြင်း နှင့်ပတ်သက်သည့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Puma Energy Asia Sun Co., Ltd တို့အကြားချုပ်ဆိုမည့် ပဋိညာဉ်စာချုပ်(မူကြမ်း)နှင့် မြေငှားစာချုပ်(မူကြမ်း)တို့ကို ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် အကြံပြုချက်များ တောင်းခံခဲ့ပြီး ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် အကြံပြုချက်များအတိုင်း သဘောတူစာချုပ်(မူကြမ်း)များကို ညှိနှိုင်းပြင်ဆင် ပြုစုရေးဆွဲထားပြီး ဖြစ်ပါသည်။ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် ပြန်ကြားစာနှင့် ညှိနှိုင်းပြင်ဆင်ပြုစု ရေးဆွဲထားသော သဘောတူစာချုပ်(မူကြမ်း)များကို **နောက်ဆက်တွဲ(စ)**ပါစာဖြင့် ပူးတွဲတင်ပြထားပါသည်။

၉။ ညှိနှိုင်းပြုစုထားသော မြေငှားစာချုပ်(မူကြမ်း) (Land Lease Agreement) အပိုဒ်-၆ Undertaking of Lessor အပိုဒ်ခွဲ (၆.၄) တွင် Puma Energy Asia Sun Co., Ltd အနေဖြင့် Bonded Area လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိရေးအတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ အစွမ်းကုန် ကူညီဆောင်ရွက်ပေးရမည်ဟု ဖော်ပြပါရှိပါသည်။ အဆိုပါ Bonded Area လုပ်ငန်းလုပ်ကိုင်ခွင့် ကိစ္စမှာ သက်ဆိုင်ရာဝန်ကြီးဌာနများ၏ ခွင့်ပြုချက်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း ဖြစ်ပါကြောင်း Puma Energy Asia Sun Co., Ltd အား ရှင်းပြထားပြီး ဖြစ်ပါသည်။

၁၀။ သီလဝါဆိပ်ကမ်းဒေသရှိ မြေကွက်အမှတ်(၃)တွင် ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ တင်ပို့ရာ၌ အသုံးပြုမည့်ဆိပ်ခံတံတားနှင့် သိုလှောင်ကန် တည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်မည့်ကိစ္စနှင့်ပတ်သက်၍ စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒ လုပ်ငန်းအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားသည့်စာကို **နောက်ဆက်တွဲ(ဆ)**ပါ စာဖြင့် တင်ပြထားပါသည်။

၁၁။ ကတ္တရာ၊ရေနံနှင့်ဆက်စပ်ပစ္စည်းများကို သိုလှောင်ကန်တည်ဆောက်ပြီး သိုလှောင်ခြင်း လုပ်ငန်းများဆောင်ရွက်ရန် မီးဘေးကြိုတင်ကာကွယ်ရေး အစီအမံနှင့်ပတ်သက်၍ မီးသတ်ဦးစီးဌာနသို့ လည်းကောင်း၊ ကတ္တရာ၊ရေနံနှင့် ဆက်စပ်ပစ္စည်းများကို သိုလှောင်ရန်အတွက် သိုလှောင်ကန် တည်ဆောက်ခြင်း၊ ပိုက်များသွယ်တန်းခြင်းတို့အတွက် သတ္တုတွင်းဝန်ကြီးဌာနနှင့် စွမ်းအင်ဝန်ကြီးဌာနများ သို့လည်းကောင်း၊ သီလဝါဒေသတွင် ကတ္တရာ၊ ရေနံနှင့် ဆက်စပ်ပစ္စည်း လုပ်ငန်းများဆောင်ရွက်ရန်အတွက် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့သို့ လည်းကောင်း၊ Puma Energy Asia Sun Co., Ltd က သဘောထားမှတ်ချက် တင်ပြတောင်းခံကြောင်းကို **နောက်ဆက်တွဲ(ဇ)** ပါစာဖြင့် တင်ပြထားပါသည်။

၁၂။ ကတ္တရာ၊ရေနံနှင့် ဆက်စပ်ပစ္စည်းများ တင်/ချ ဆိပ်ခံတံတား၊ သိုလှောင်ကန်များနှင့် အထောက်အကူပြုအဆောက်အအုံများ တည်ဆောက်နေစဉ် လက်ရှိသဘာဝပတ်ဝန်းကျင်အပေါ် သက်ရောက်မှုအားလေ့လာဆန်းစစ်ခြင်း(Environmental Impact Assessment)နှင့် လက်ရှိ လူနေမှုပတ်ဝန်းကျင်အပေါ် သက်ရောက်မှုအား လေ့လာဆန်းစစ်ခြင်း (Social Impact Assessment) များကို လည်းကောင်း၊ စီမံကိန်းလုပ်ငန်းကြောင့် နောင်အနာဂတ်တွင်ဖြစ်ပေါ်လာမည့် သဘာဝပတ်ဝန်းကျင်အပေါ် သက်ရောက်မှုနှင့် လူနေမှုပတ်ဝန်းကျင်အပေါ် သက်ရောက်မှု ဆန်းစစ်ချက်တို့ကို Environmental & Nature Conservation Associates (ENCA)အဖွဲ့ဖြင့် လေ့လာတိုင်းတာခဲ့ပြီး အစီရင်ခံစာကို **နောက်ဆက်တွဲ(ဈ)** အနေဖြင့် ပူးတွဲတင်ပြထားပါသည်။

၁၃။ Puma Energy Asia Sun Co., Ltd အား သီလဝါဆိပ်ကမ်းနယ်မြေ၊ မြေကွက်အမှတ် (၃)ကို ကျောထောက်နောက်ခံပြုပြီး ကတ္တရာနှင့် ရေနံ ဆက်စပ်ပစ္စည်းများ တင်/ချ ကွန်ကရစ်ဆိပ်ခံတံတား တစ်စင်း၊ ကတ္တရာနှင့် ရေနံ ဆက်စပ်ပစ္စည်းများ သိုလှောင်နိုင်ရန် သိုလှောင်ကန်များ နှင့် အခြားအထောက်အကူပြု အဆောက်အအုံများ တည်ဆောက်၍ လုပ်ငန်း ဆောင်ရွက်ခွင့်ပြုခြင်းအတွက် နိုင်ငံတော်၏ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူဖြစ်စေပြီး တည်ဆောက်ရေး လုပ်ငန်းများနှင့် ဈေးကွက်အတွင်းတွင် ကတ္တရာ နှင့် ရေနံ ဆက်စပ်ပစ္စည်းများ ပြတ်လပ်သည့် အခက်အခဲကို ကျော်လွှားနိုင်မည် ဖြစ်ပါသည်။

၁၄။ သို့ဖြစ်ပါ၍ Puma Energy Asia Sun Co., Ltd အား မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က ပိုင်ဆိုင်သော သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၃)တွင် ကတ္တရာနှင့် ရေနံ ဆက်စပ်ပစ္စည်းများ တင်/ချ ကွန်ကရစ်ဆိပ်ခံတံတား တစ်စင်းနှင့် ကျောထောက်နောက်ခံမြေပေါ်တွင် ကတ္တရာနှင့် ရေနံ ဆက်စပ်ပစ္စည်းများ သိုလှောင်ရန် သိုလှောင်ကန်များနှင့် အခြားအထောက်အကူပြု အဆောက်အအုံများ တည်ဆောက်ခွင့်ပြုရန် ဖြစ်ပါသည်။ ထိုကဲ့သို့ ခွင့်ပြုခြင်းအတွက် နှစ်စဉ်မြေငှားရမ်းခ အမေရိကန်ဒေါ်လာ

၃၆၀,၀၀၀ (အမေရိကန်ဒေါ်လာ သုံးသိန်း ခြောက်သောင်း တိတိ)ကိုလည်းကောင်း၊ မြေအသုံးချမှု ပရီမီယံကြေး အမေရိကန်ဒေါ်လာ ၁,၀၀၀,၀၀၀ (အမေရိကန် ဒေါ်လာ တစ်သန်းတိတိ)ကို လည်းကောင်း မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ပေးဆောင်စေလျက် မြေငှားရမ်းကာလ/ လုပ်ငန်းလုပ်ကိုင်ခွင့်ကာလ ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး နောက်ထပ် (၁၀)နှစ် (၂)ကြိမ် တိုးမြှင့်သည့်စနစ်ဖြင့် စုစုပေါင်း နှစ် (၇၀) ခွင့်ပြုသည့် BOT စနစ်ဖြင့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် နည်းဥပဒေပါ အခွင့်အရေးများကို ခံစားခွင့်ပြုလျက် လုပ်ငန်းဆောင်ရွက်ခွင့် ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

ဉာဏ်ထွန်းအောင်
ပြည်ထောင်စုဝန်ကြီး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူကို
- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

PUMA ENERGY

**PUMA ENERGY IRRWADDY PTE LTD**

Chairman
Myanmar Investment Commission (MIC),
Building No. (32), Nay Pyi Taw,
The Republic of the Union of Myanmar

Subject: **Application for Investment Permit for carrying out the business of storage of bitumen and petroleum products and providing storage services for petroleum products to third parties in the Republic of the Union of Myanmar under Foreign Investment Law**

Reference: Letter Number - **YaKa -1 / Na-983/ 2014 (3481)** dated **31st March 2014** of Proposal Assessment Team, Myanmar Investment Commission (MIC)

Your Excellency,

During the (12/2014) meeting with Proposal Assessment Team on 13th March 2014 at Nay Pyi Taw, we have been advised to make the following changes after the meeting.

1. To change the company name to the name of the company which won the tender
2. To change the type of business into the construction of the jetty and storage tanks
3. To request opinions and remarks from Ministry of Energy and to submit those opinions and remarks to Myanmar Investment Commission (MIC)
4. To submit the plan to carry out Environmental Impact Assessment and Social Impact Assessment.

We would like to inform that we have amended our proposal for advice no. (2), (3) and (4) as advised by the PAT meeting.

However, for the advice no. (1) mentioned above, we have explained why the company name has to be changed from **"Puma Energy Group Pte Ltd"** to **"Puma Energy Irrawaddy Pte Ltd"** to Myanma Port Authority and Ministry of Transport after this PAT meeting and we have finally get the official approval from them during their Executive Committee meeting to proceed with **"Puma Energy Irrawaddy Pte Ltd"** as the investor or promoter or principle organization for the MIC investment proposal and with **"Puma Energy Asia Sun Co Ltd"** as the future local joint venture company to operate this project by applying licenses to the government authorities for the investment and commercial activity as required under the Myanmar Foreign Investment Law.

**PUMA ENERGY IRRWADDY PTE LTD**

Therefore, we are re-submitting the application with **"Puma Energy Irrawaddy Pte Ltd"** as the investor or promoter or principle organization for the MIC investment proposal and with **"Puma Energy Asia Sun Co Ltd"** as the future local joint venture company.

It is my sincere hope that Your Excellency will be able to give this matter a favorable consideration and also grant approval at the earliest convenience.

Yours Faithfully,

Mr. Robert Michael Jones
(Promoter of the Proposal)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၅၂-ပဆ / ခွဲ(၁)၂၀၁၄ (၃ / ၁၉ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ မတ်လ ၃ ရက်

အကြောင်းအရာ။ **PUMA ENERGY GROUP PTE LIMITED အား သီလဝါဆိပ်ကမ်းဒေသတွင် ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ တင်/ချဆိပ်ခံတံတားနှင့် အထောက် အကူပြု အဆောက်အအုံများ တည်ဆောက်ကာ BOT စနစ်ဖြင့် လုပ်ငန်း ဆောင်ရွက် ခွင့်ပြုနိုင်ပါရန် ကိစ္စ**

၁။ နိုင်ငံတော်၏ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေရန်နှင့် တည်ဆောက်ရေး လုပ်ငန်းများတွင် ကတ္တရာနှင့်ရေနံဆက်စပ်ပစ္စည်းများ လိုအပ်ချက်ကို ဖြည့်ဆည်းပေးနိုင်ရန်အတွက် သီလဝါဆိပ်ကမ်းဒေသ မြေကွက်အမှတ်(၃)အား BOT စနစ်ဖြင့် ငှားရမ်းပြီး ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ တင်သွင်းဖြန့်ဖြူးရန် ဆိပ်ခံတံတားနှင့် သိုလှောင်ကန်များ တည်ဆောက်ခြင်းလုပ်ငန်းကို ရင်းနှီးမြှုပ်နှံသူများအား ပွင့်လင်းမြင်သာသည့် တင်ဒါစနစ်ဖြင့် ခေါ်ယူသွားမည့်ကိစ္စအပေါ် မူအားဖြင့် ခွင့်ပြုနိုင်ပါရန် ပို့ဆောင်ရေးဝန်ကြီးဌာနမှ နိုင်ငံတော်သမ္မတရုံးသို့ တင်ပြခဲ့ရာ၊ နိုင်ငံတော်သမ္မတရုံးမှ ခွင့်ပြုခဲ့ပြီး ဖြစ်ပါသည်။
**နောက်ဆက်တွဲ(က)**

၂။ နိုင်ငံတော်သမ္မတရုံး၏ ညွှန်ကြားချက်နှင့်အညီ သီလဝါဆိပ်ကမ်းဒေသ မြေကွက် အမှတ်(၃)အား BOT စနစ်ဖြင့် ငှားရမ်းပြီး ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ တင်သွင်းဖြန့်ဖြူးရန် ဆိပ်ခံတံတား နှင့် သိုလှောင်ကန်များ တည်ဆောက်ခြင်းလုပ်ငန်း တင်ဒါနှင့်ပတ်သက်၍ ၈-၄-၂၀၁၃ ရက်နေ့နှင့် ၉-၄-၂၀၁၃ ရက်နေ့တို့တွင် မြန်မာ့အလင်း သတင်းစာ၊ ကြေးမုံ သတင်းစာနှင့် The New Light of Myanmar သတင်းစာတို့၌ ကြေငြာထည့်သွင်းခဲ့ပြီး၊ ၁၀-၄-၂၀၁၃ ရက်နေ့နှင့် ၁၁-၄-၂၀၁၃ ရက်နေ့တို့တွင် တင်ဒါပုံစံနှင့် တင်ဒါစည်းကမ်းချက်များကို ရောင်းချခဲ့ရာ တင်ဒါ စောင်ရေ(၁၈)စောင်ကို ရောင်းချခဲ့ရပါသည်။ တင်ဒါတင်သွင်းသည့် ကုမ္ပဏီ(၂)ခုရှိပြီး ၈-၅-၂၀၁၃ ရက်နေ့တွင် မြန်မာ့ဆိပ်ကမ်းအာဏာပိုင် ရုံးချုပ်၌ ပို့ဆောင်ရေးဝန်ကြီးဌာနမှ ဖွဲ့စည်းတာဝန်ပေးအပ်သော တင်ဒါစိစစ်ရွေးချယ်ရေးအဖွဲ့ဖြင့် စိစစ်ရွေးချယ်ခဲ့ပါသည်။

၃။ တင်ဒါတင်သွင်းသည့် ကုမ္ပဏီ(၂)ခုအနက် China Harbour Engineering Co., Ltd သည် တင်ဒါ စိစစ်ရွေးချယ်ရာ၌ အခြေခံသတ်မှတ်ချက်များနှင့် ကိုက်ညီခြင်း မရှိသည့်အတွက် ပဏာမအဆင့် အောင်မြင်ခဲ့ခြင်းမရှိပါကြောင်းနှင့် Puma Energy Group Pte, Ltd သည် အခြေခံ သတ်မှတ်ချက်များနှင့် ကိုက်ညီခြင်းရှိသည့်အတွက် ပဏာမအဆင့် တင်ဒါအောင်မြင်ခဲ့ပါသည်။

၄။ တင်ဒါပဏာမအဆင့် အောင်မြင်ခဲ့သည့် Puma Energy Group Pte, Ltd ကို သီလဝါဆိပ်ကမ်းဒေသ မြေကွက်အမှတ်(၃)အား BOT စနစ်ဖြင့်ငှားရမ်းပြီး ကတ္တရာနှင့် ရေနံ ဆက်စပ်ပစ္စည်းများ တင်သွင်းဖြန့်ဖြူးရန် ဆိပ်ခံတံတားနှင့် သိုလှောင်ကန်များ တည်ဆောက်၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ

နှင့် နည်းဥပဒေ ပါအခွင့်အရေးများကို ခံစားခွင့်ပြုလျက် လုပ်ငန်း လုပ်ကိုင်ခွင့်ကာလ ကနဦး(၅၀)နှစ်နှင့် နောက်ထပ်(၁၀)နှစ် နှစ်ကြိမ် တိုးမြှင့်သည့်စနစ်ဖြင့် စုစုပေါင်း နှစ်(၇၀) ခွင့်ပြုသည့် BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက် ခွင့်ပြုရန်ကိစ္စနှင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Puma Energy Group Pte, Ltd တို့အကြား ချုပ်ဆိုမည့်စာချုပ် (မူကြမ်း)ကို နှစ်ဘက်ညှိနှိုင်း ရေးဆွဲပြီး ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ သဘောထားမှတ်ချက် တောင်းခံ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြရန် ကိစ္စတို့ကို ၂၄.၆.၂၀၁၃ ရက်နေ့၌ ကျင်းပပြုလုပ်သော ပို့ဆောင်ရေးဝန်ကြီးဌာန စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေး အမှတ်စဉ် (၈/၂၀၁၃)တွင် သဘောတူညီပြီး ဖြစ်ပါသည်။

၅။ Puma Energy Group Pte, Ltd သို့ အငှားချထားမည့် သီလဝါဆိပ်ကမ်း မြေကွက် အမှတ်(၃) သည် မြေဧရိယာ စုစုပေါင်း(၃၇.၀၆)ဧက ရှိပြီး အဆိုပါမြေကို ကျောထောက်နောက်ခံပြုကာ ကမ်းနဖူး မျက်နှာစာ အလျား (၂၀၀)မီတာ x အကျယ် (၃၅) မီတာ အရွယ်ရှိ ဆိပ်ခံတံတား တစ်စင်းနှင့် အလျား (၁၂၀)မီတာ x အကျယ် (၅)မီတာ အရွယ် ချဉ်းကပ်တံတား (၁)စင်း ပါဝင်သော ကွန်ကရစ်ဆိပ်ခံ တံတားကို တည်ဆောက်မည်ဖြစ်ပြီး၊ ကျောထောက်နောက်ခံမြေပေါ်တွင် ကတ္တရာ (၇၀၀၀) ကုဗမီတာ သိုလှောင် ထားနိုင်သည့် သိုလှောင်ကန်(၃)လုံး၊ ရေနံဆက်စပ်ပစ္စည်းများ (၈၃၇၅) ကုဗမီတာ သိုလှောင်ထားနိုင်သည့် သိုလှောင်ကန် (၈)လုံးနှင့် အခြားလုပ်ငန်း အထောက်အကူပြု အဆောက်အဦများ တည်ဆောက်ကာ ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများကို သိုလှောင် ဖြန့်ဖြူးခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်နည်းဥပဒေပါ အခွင့်အရေးများကိုခံစားစေ၍ လုပ်ငန်းဆောင်ရွက်ခွင့်ပြုနိုင်ပါရန် စီမံကိန်း အဆိုပြုလွှာ ကို Puma Energy Group Pte, Ltd မှ တင်ပြလာပါသည်။ နောက်ဆက်တွဲ(ခ)

၆။ စီမံကိန်းအဆိုပြုလွှာတွင် အောက်ပါအချက်များ အဓိက ပါဝင်ပါသည် -

| | | | |
|---|---|---|---|
| (က) | စီမံကိန်းတည်နေရာ | - | သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၃) |
| (ခ) | စုစုပေါင်း မြေဧရိယာ | - | ၃၇.၀၆ ဧက (၁၄၉၉၈၂ စတုရန်းမီတာ) |
| (ဂ) | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ပမာဏ | - | US $ ၁၀၆.၁၀ သန်း |
| (ဃ) | တည်ဆောက်ရေးကာလ | - | သဘောတူစာချုပ် လက်မှတ်ရေးထိုးပြီး (၃၀)လ |
| (င) | တည်ဆောက်မည့် ဆိပ်ခံတံတား | - | မျက်နှာစာ အလျား ၂၀၀ မီတာ x အကျယ် ၃၅ မီတာ |
| (စ) | တည်ဆောက်မည့်ချဉ်းကပ်တံတား | - | အလျား ၁၂၀ မီတာ x အကျယ် ၅ မီတာ |
| (ဆ) | မြေငှားကာလ/လုပ်ငန်းလုပ်ကိုင်ခွင့် ကာလ | - | ကနဦး(၅၀)နှစ် နှင့် သက်တမ်းတိုး နောက်ထပ် (၁၀)နှစ်(၂)ကြိမ်တိုးမြှင့်ခွင့်ဖြင့်စုစုပေါင်း(၇၀)နှစ် |
| (ဇ) | မြေအသုံးချမှု ပရီမီယံကြေး (တစ်စတုရန်းမီတာလျှင် USD ၆.၆၆၇ နှုန်း) | - | USD ၁,၀၀၀,၀၀၀.၀၀ |
| (ဈ) | နှစ်စဉ်မြေငှားရမ်းခ (တစ်စတုရန်းမီတာလျှင် USD၀.၁၆၇ နှုန်း) | - | US$ ၃၆၀,၀၀၀.၀၀ |

၇။ Puma Energy Group Pte, Ltd အား သီလဝါဆိပ်ကမ်းဒေသ မြေကွက်အမှတ်(၃) ကို ကျောထောက်နောက်ခံပြု၍ ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ တင်/ချဆိပ်ခံတံတား၊ သိုလှောင်ကန်များနှင့် သိုလှောင်ဖြန့်ဖြူးရေး အထောက်အကူပြု အဆောက်အအုံများကို BOT စနစ် ဖြင့် အကောင်အထည်ဖော်တည်ဆောက်ကာ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုခြင်း နှင့်ပတ်သက်သည့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Puma Energy Group Pte, Ltd တို့အကြား ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ် (မူကြမ်း)နှင့် မြေငှားစာချုပ်(မူကြမ်း)တို့ကို ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် အကြံပြုချက်များ တောင်းခံခဲ့ပြီး ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် အကြံပြုချက်များအတိုင်း သဘောတူစာချုပ်(မူကြမ်း)များကို ညှိနှိုင်းပြင်ဆင် ပြုစုရေးဆွဲထားပြီး ဖြစ်ပါသည်။ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် ပြန်ကြားစာ နှင့် ညှိနှိုင်းပြင်ဆင်ပြုစု ရေးဆွဲထားသော သဘောတူစာချုပ် (မူကြမ်း) များကို **နောက်ဆက်တွဲ(ဂ)** ပါစာဖြင့် ပူးတွဲတင်ပြထားပါသည်။

၈။ ညှိနှိုင်း ပြုစုထားသော မြေငှားစာချုပ်(မူကြမ်း) (Land Lease Agreement) အပိုဒ်-၆ Undertaking of Lessor အပိုဒ်ခွဲ (၆.၄) တွင် Puma Energy Group Pte, Ltd အနေဖြင့် Bonded Area လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိရေးအတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ အစွမ်းကုန် ကူညီဆောင်ရွက်ပေးရမည်ဟု ဖော်ပြပါရှိပါသည်။ အဆိုပါ Bonded Area လုပ်ငန်းလုပ်ကိုင်ခွင့် ကိစ္စမှာ သက်ဆိုင်ရာဝန်ကြီးဌာနများ၏ ခွင့်ပြုချက်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း ဖြစ်ပါကြောင်း Puma Energy Group Pte, Ltd အား ရှင်းပြထားပြီး ဖြစ်ပါသည်။

၉။ သီလဝါဆိပ်ကမ်းဒေသရှိ မြေကွက်အမှတ်(၃)တွင် ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ တင်ပို့ရာ၌ အသုံးပြုမည့်ဆိပ်ခံတံတားနှင့် သိုလှောင်ကန် တည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်မည့် ကိစ္စနှင့် ပတ်သက်၍ စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒ လုပ်ငန်းအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားသည့်စာကို **နောက်ဆက်တွဲ(ဃ)** ပါ စာဖြင့် တင်ပြထားပါသည်။

၁၀။ ကတ္တရာ၊ ရေနံနှင့် ဆက်စပ်ပစ္စည်းများကို သိုလှောင်ကန်တည်ဆောက်ပြီး သိုလှောင် ဖြန့်ဖြူးခြင်း လုပ်ငန်းများဆောင်ရွက်ရန် မီးဘေးကြိုတင်ကာကွယ်ရေး အစီအမံနှင့် ပတ်သက်၍ မီးသတ်ဦးစီးဌာနသို့လည်းကောင်း၊ ကတ္တရာ၊ ရေနံနှင့် ဆက်စပ်ပစ္စည်းများကို သိုလှောင်ရန် အတွက် သိုလှောင်ကန် တည်ဆောက်ခြင်း၊ ပိုက်များ သွယ်တန်းခြင်းတို့အတွက် သတ္တုတွင်းဝန်ကြီးဌာနနှင့် စွမ်းအင်ဝန်ကြီး ဌာနများသို့လည်းကောင်း၊ သီလဝါဒေသတွင် ကတ္တရာ၊ ရေနံနှင့် ဆက်စပ်ပစ္စည်းများ ဖြန့်ဖြူးခြင်း လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့သို့ လည်းကောင်း၊ Puma Energy Group Pte, Ltd က သဘောထားမှတ်ချက် တင်ပြတောင်းခံထား ကြောင်းကို **နောက်ဆက်တွဲ(င)** ပါစာဖြင့် တင်ပြထားပါသည်။

၁၁။ ကတ္တရာ၊ ရေနံနှင့် ဆက်စပ်ပစ္စည်းများ တင်/ချ ဆိပ်ခံတံတား၊ သိုလှောင်ကန်များနှင့် အထောက်အကူပြု အဆောက်အအုံများ တည်ဆောက်နေစဉ် လက်ရှိ သဘာဝပတ်ဝန်းကျင်အပေါ် သက်ရောက်မှုအား လေ့လာဆန်းစစ်ခြင်း (Environmental Impact Assessment) နှင့် လက်ရှိ လူနေမှုပတ်ဝန်းကျင် အပေါ် သက်ရောက်မှုအား လေ့လာဆန်းစစ်ခြင်း (Social Impact Assessment) များကို လည်းကောင်း၊ စီမံကိန်းလုပ်ငန်းကြောင့် နောင်အနာဂတ်တွင် ဖြစ်ပေါ်လာမည့် သဘာဝပတ်ဝန်းကျင်အပေါ် သက်ရောက်မှု

နှင့် လူနေမှု ပတ်ဝန်းကျင်အပေါ် သက်ရောက်မှု ဆန်းစစ်ချက် တို့ကို Environmental & Nature Conservation Associates (ENCA) အဖွဲ့ဖြင့် လေ့လာတိုင်းတာခဲ့ပြီး အစီရင်ခံစာကို **နောက်ဆက်တွဲ(စ)** ဖြင့် ပူးတွဲတင်ပြထားပါသည်။

၁၂။ Puma Energy Group Pte, Ltd အား သီလဝါဆိပ်ကမ်းနယ်မြေ၊ မြေကွက်အမှတ် (၃)ကို ကျောထောက်နောက်ခံပြုပြီး ကတ္တရာနှင့် ရေနံ ဆက်စပ်ပစ္စည်းများ တင်/ချ ဖြန့်ဖြူးနိုင်ရန် အတွက် ကွန်ကရစ်ဆိပ်ခံတံတားတစ်စင်း၊ ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ သိုလှောင်နိုင်ရန် သိုလှောင်ကန်များနှင့် အခြားအထောက်အကူပြု အဆောက်အအုံများ တည်ဆောက်၍ လုပ်ငန်း ဆောင်ရွက်ခွင့်ပြုခြင်း အတွက် နိုင်ငံတော်၏ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူဖြစ်စေပြီး တည်ဆောက်ရေး လုပ်ငန်းများနှင့် ဈေးကွက်အတွင်းတွင် ကတ္တရာ နှင့် ရေနံ ဆက်စပ်ပစ္စည်းများ ပြတ်လပ်သည့် အခက်အခဲကို ကျော်လွှားနိုင်မည် ဖြစ်ပါသည်။

၁၃။ သို့ဖြစ်ပါ၍ Puma Energy Group Pte, Ltd အား မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က ပိုင်ဆိုင်သော သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၃)တွင် ကတ္တရာနှင့် ရေနံ ဆက်စပ်ပစ္စည်းများ တင်/ချ ဖြန့်ဖြူး နိုင်ရန်အတွက် ကွန်ကရစ်ဆိပ်ခံတံတား တစ်စင်းနှင့် ကျောထောက်နောက်ခံမြေပေါ်တွင် ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ သိုလှောင်ရန် သိုလှောင်ကန်များနှင့် အခြားအထောက်အကူပြု အဆောက်အအုံများ တည်ဆောက်ခွင့်ပြုရန် ဖြစ်ပါသည်။ ထိုကဲ့သို့ ခွင့်ပြုခြင်းအတွက် နှစ်စဉ်မြေငှားရမ်းခ အမေရိကန်ဒေါ်လာ ၃၆၀,၀၀၀ (အမေရိကန်ဒေါ်လာ သုံးသိန်း ခြောက်သောင်း တိတိ)ကို လည်းကောင်း၊ မြေအသုံးချမှု ပရီမီယံကြေး အမေရိကန်ဒေါ်လာ ၁,၀၀၀,၀၀၀ (အမေရိကန် ဒေါ်လာ တစ်သန်း တိတိ)ကိုလည်းကောင်း မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ပေးဆောင်စေလျက် မြေငှားရမ်းကာလ/ လုပ်ငန်းလုပ်ကိုင်ခွင့်ကာလ ကနဦး(၅၀)နှစ် နှင့် သက်တမ်းတိုး နောက်ထပ် (၁၀)နှစ် (၂)ကြိမ် တိုးမြှင့်သည့်စနစ်ဖြင့် စုစုပေါင်း နှစ် (၇၀) ခွင့်ပြုသည့် BOT စနစ်ဖြင့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် နည်းဥပဒေပါ အခွင့်အရေးများကို ခံစား ခွင့်ပြုလျက် လုပ်ငန်းဆောင်ရွက်ခွင့် ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

ဉာဏ်ထွန်းအောင်
ပြည်ထောင်စုဝန်ကြီး

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

မိတ္တူကို

- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

